## ဒို့တာဝန်အရေးသုံးပါး

| | |
|---|---|
| ပြည်ထောင်စုမပြိုကွဲရေး | ဒို့အရေး |
| တိုင်းရင်းသား စည်းလုံးညီညွတ်မှုမပြိုကွဲရေး | ဒို့အရေး |
| အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး | ဒို့အရေး |

■ ■ ■ ■ ■ ■ ■ ■ ■ ■ ■ ■ ■

တပ်မတော်ဖြိုခွဲသူ ဒို့ရန်သူ။

တပ်မတော်ဖြိုခွဲမည့်အကြံ ဒို့လက်မခံ။

ဘယ်သူခွဲခွဲ ဒို့မကွဲ အမြဲစည်းလုံးမည်။

နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပေါ်ပေါက်ရေးသည်
ပြည်ထောင်စုသားအားလုံး၏ ပဓာနကျသောတာဝန် ဖြစ်သည်။

■ ■ ■ ■ ■ ■ ■ ■ ■ ■ ■ ■ ■

## ပြည်သူ့သဘောထား

- ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက် နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
- ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

**စာမူခွင့်ပြုချက်အမှတ်**

၉၂၁/၂၀၀၀ (၁၁)

**မျက်နှာဖုံးခွင့်ပြုချက်အမှတ်**

၄၆/၂၀၀၁ (၁)

**မျက်နှာဖုံးဒီဇိုင်း**

နေလတ် (ဆေး-၁)

**ပုံနှိပ်ထုတ်ဝေခြင်း**

ပထမအကြိမ်၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ

**စောင်ရေ**

၁၀၀၀

**တန်ဖိုး**

၄၀၀ ကျပ်

**စာအုပ်ချုပ်**

ကိုမြင့်

**အတွင်းသားစက်ရိုက်**

ပွင့်ဦးပုံနှိပ်တိုက် (၀၂၉၃၄)

ဒေါ်နွဲ့နွဲ့ရီ အမှတ်(၆၅)၊ ၁၃ လမ်း

**မျက်နှာဖုံးပုံနှိပ်**

ကျောက်စိမ်းပုံနှိပ်တိုက် (၀၂၉၀၉)

ဦးကျော်စိန်၊ ၁၇၁၊ ၃၃ လမ်း

**ထုတ်ဝေသူ**

ဒေါ်မော်မော်

ပန်းမျိုးတစ်ရာစာပေ၊ (၀၂၀၃၇)

တိုက် ၂၃၃၊ ၁၄၊ ၆-ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဆရာချစ်စံဝင်း၏ ၇၇ အုပ်မြောက်စာအုပ်

# လူငယ်များက မေးကြသည်

## ချစ်စံဝင်း

## အမေကျေနပ် ကြည်နူးမှာပါလေ

ကျွန်တော်သည် ဤနိုင်ငံ၊ ဤလူမျိုး၊ ဤရေ၊ ဤမြေ၊ ဤတော၊ ဤတောင်၊ ဤမြစ်၊ ဤချောင်း၊ ဤအရပ်၊ ဤမြို့၊ ဤရွာ၊ ဤမိတ်ဆွေ၊ ဤဆွေမျိုး၊ ဤမိ၊ ဤဖ၊ ဤဆရာ၊ ဤကျောင်းတို့မှ လူလားမြောက်၍ ကလောင်တစ်ချောင်း ပိုင်ဆိုင်လာရသည်ဖြစ်ရာ မိမိပိုင် ကလောင်ကို ကိုင်၍ တတ်နိုင်သမျှ စွမ်းပကားဖြင့် ၇၇ အုပ်သော စာအုပ်များကို ရေးသားထုတ်ဝေဖြန့်ချီခဲ့ပြီး ဖြစ်ပါသည်။

၇၇ အုပ်မြောက်သော စာအုပ်တို့သည် ကျွန်တော့်အဖို့ ကျွန်တော့်လူမျိုး၊ ကျွန်တော့်နိုင်ငံအတွက် အများပြည်သူတို့ စားသုံးရန် သစ်သီးဝလံခြံကြီး ၇၇ ခြံ၊ အများပြည်သူတို့ အပန်းဖြေစရာ သစ်လွင်လှပသော ပန်းဥယျာဉ်ကြီး ၇၇ ခု၊ များပြားလှစွာသော ကျား၊ ဆင်၊ ခြင်္သေ့တို့မှအစ သမင်၊ ဒရယ်၊ ချေငယ်၊ ဆိုင်၊ ဆတ် စသည့် သတ္တဝါတို့ မြူးတူးပျော်ပါး၍ ပန်းမျိုးစုံ ဝေဆာပွင့်ဖူး အထူးထူးသော သစ်ပင် သစ်အုပ်တို့ ထူထပ်စွာ ပေါက်ရောက်လျက်ရှိသော သစ်တောကြီး ၇၇ တော၊ ပန်းပု ပန်းချီ အမွှမ်းအပြောက်လက်ရာတို့ဖြင့် မွှမ်းမံထားသော နားနေစရာ ဇရပ်ကြီး ၇၇ ဆောင်၊ အများပြည်သူတို့ ရေကြည်ရေအေးသောက်သုံးရန် ရေတွင်း၊ ရေကန်၊ ဆည်ကြီး၊ မြောင်း

ကြီး ၇၇ ခု၊ အများပြည်သူတို့ သွားလာလျှောက်လှမ်းရန် ဖြောင့်တန်းသည့်လမ်းမကြီး ၇၇ သွယ်၊ အများပြည်သူတို့ စိတ်အေးချမ်းသာစွာ စီးနင်းရန် လှေ၊ ယာဉ်၊ လှည်းယာဉ်၊ ရထားယာဉ်၊ လေယာဉ်၊ သင်္ဘောကြီး ၇၇ စင်း၊ စိုက်ပျိုးရိတ်သိမ်းရန် အသင့်ဖြစ်နေသော မျိုးကောင်းမျိုးသန့် စပါးခင်းကြီး ၇၇ ခင်း၊ အင်္ကျီအထည် အသုံးအဆောင်တို့မှ အစစအရာရာကို ထုတ်လုပ်နိုင်သည့် စက်ရုံကြီး ၇၇ ရုံကို တည်ဆောက်ပြုပြင်ခြင်းဖြစ်သည်ဟု ကျွန်တော် ယုံကြည်ပါ၏။

ထိုလုပ်ဆောင်မှုများအတွက် ကျွန်တော် ဖြစ်ပေါ်ခံစားရသော ပီတိကို ကျွန်တော့်မိဘ၊ ကျွန်တော့်ရပ်ရွာ၊ ကျွန်တော့်အဘိုးအဘွား၊ ကျွန်တော့်ဆရာများအပါအဝင် ကျွန်တော့်မိတ်ဆွေအပေါင်းတို့အား မျှဝေခံစားနိုင်ဖို့ ကြည်နူးစွာ ဖြန့်ဖြူးအပ်ပါသည်။

ဤလုပ်ဆောင်မှုများအတွက် မိခင်ကြီး ဒေါ်လှသန်း ရောက်ရာဘဝက ကြည်နူးကျေနပ်နေမှာပါလေ။

ချစ်စံဝင်း

# စာရေးသူ၏ အမှာစာ

ကျွန်တော်သည် ယခု လော့အိန်ဂျလိ(စ်) မြန်မာဘုန်းတော်ကြီးကျောင်းတွင် သီတင်းသုံးလျက်ရှိသော ဆရာတော် အရှင်သဒ္ဓနထံမှ Young People Ask ဟူသော စာအုပ်တစ်အုပ်ကို ရရှိပါသည်။ ထိုစာအုပ်သည် ၃၄ ဘာသာဖြင့် ပုံနှိပ်ထားပြီး ၁၉၈၉ ခုနှစ်မှစ၍ စုစုပေါင်း စောင်ရေ ၁၅၃၀၀,၀၀၀ မျှ ထုတ်ဝေခဲ့သောစာအုပ် ဖြစ်ပါ၏။ ပထမအကြိမ် ပုံနှိပ်စဉ်ကပင် အုပ်ရေသုံးသန်း ထုတ်ဝေခဲ့သောစာအုပ်ဖြစ်သည်။ ဤစာအုပ်ကို ၁၉၉၃ ခုနှစ်က မြန်မာဘာသာဖြင့်လည်း အုပ်ရေ ၅၀၀၀ ထုတ်ဝေပြီး ဖြစ်ပါသည်။ ထိုစာအုပ်ကို ဖြေထားသော အဖြေများသည် လူငယ်တိုင်း ကြုံတွေ့နေရသော ပြဿနာများ၊ အခက်အခဲများကို ဖြေထားရာ အဖြေများကလည်း လူငယ်များ သိသင့်သိထိုက်သောအဖြေများချည်း ဖြစ်ပါ၏။ သို့သော် မူလစာအုပ်သည် ခရစ်ယာန်လူငယ်များအတွက် ရည်စူး၍ ရေးသားထားသောစာအုပ်ဖြစ်ပြီး ရေးသားမှုစာကြောင်းတိုင်းသည်လည်း သမ္မာကျမ်းစာ အကိုးအကားများနှင့်ဖြစ်၏။ ဗုဒ္ဓဘာသာ မြန်မာလူငယ်များအတွက်ဆိုပါက သိရှိလိုက်နာရန် ကွာဟမှုလည်းရှိ၏။ မြန်မာလူငယ်များ နားလည်နိုင်သော ဥပမာများ၊ အရေးအသားများနှင့် ရေးသားဖော်ပြပါမှ လူငယ်များ ပိုမိုလွယ်ကူရှင်းလင်းစွာ ထိုအကြောင်းအရာများကို သိရှိခွင့်ရမည်ဖြစ်ပါ၏။

ထို့ကြောင့် ယင်းစာအုပ်ထဲမှ အကြောင်းအရာများကို စာရေးသူ၏ အတွေ့အကြုံ၊ မြန်မာလူမျိုးတို့၏ ဓလေ့စရိုက်၊ နားဝင်နိုင်သော ဆိုဆုံးမမှုများအား အခြေခံ၍ အမေးအဖြေများပြုလုပ်ကာ မြရိပ်ညိုမဂ္ဂဇင်းနှင့် တက်လူဂျာနယ်များတွင် ထည့်သွင်းဖော်ပြခဲ့ပါသည်။ **'လူငယ်များက မေးကြသည်'** ဆိုသော စာအုပ်ကို အခြေခံ၍ ရေးသားသည်ဟုဆိုသော်လည်း အချို့သောမေးခွန်းများသည် တကယ့် မြန်မာလူငယ်များက လှမ်း၍မေးမြန်းသော အကြောင်းအရာများလည်း ပါဝင်၏။ ဥပမာ HIV, AIDS အစရှိသော ရောဂါများအကြောင်း၊ ပထဝီဝင်သင်ကြားလိုခြင်း၊ နိုင်ငံခြားသို့ သွားရောက်ပညာသင်ကြားလိုခြင်း စသည့် မေးခွန်းများသည် **'လူငယ်များက မေးကြသည်'** ဆိုသော စာအုပ်တွင် မပါဝင်ဘဲ တကယ့်မြန်မာလူငယ်များက မေးမြန်းသော မေးခွန်းများဖြစ်ပါ၏။

မည်သို့ပင်ဖြစ်စေ ဤစာအုပ်ပါ မေးခွန်းနှင့် အဖြေများသည် မြန်မာလူငယ်များ စိတ်ဝင်စားရုံသာမက မြန်မာလူငယ်များ သိချင်သော၊ သိဖို့လိုအပ်သော အကြောင်းအရာများဖြစ်မည်ဟု ယုံကြည်မိပါ၏။

တစ်ဖန် အဖြေများကို ရေးသားရာတွင် စာရေးသူသည် တက်လူဂျာနယ်တွင် ဖြေကြားစဉ်က စကားပြောနှင့် ဖြေကြားခဲ့ပြီး မြရိပ်ညိုတွင် ဖြေကြားစဉ်က စကားပြေအရေးအသားနှင့် ဖြေဆိုခဲ့ရာ ဤစာအုပ်တွင် ပြင်ဆင်ရေးသားခြင်း မပြုတော့ဘဲ ဖော်ပြလိုက်ခြင်းကြောင့် အချို့အဖြေများသည် စကားပြောသလို ဖြေကြားထားပြီး အချို့အဖြေများကို စကားပြေအရေးအသားနှင့် ဖြေဆိုထားသည်ဖြစ်ရာ သည်းခံခွင့်လွှတ်ပေးကြားစေလိုပါသည်။

ဤစာအုပ်သည် လူငယ်များအတွက် အသုံးဝင် အဖိုးတန်မည်ဟု ယူဆပါသည်။ အကယ်၍ လူငယ်များထံတွင် မေးစရာမေးခွန်းများ ရှိပါက စာရေး မေးမြန်းနိုင်ပါသည်။ တစ်ဖန် ဖြေဆိုထားမှုများတွင် မှားယွင်းသည်ဟု ယူဆမှုများနှင့် မိမိဆန္ဒနှင့် မကိုက်ညီမှုများ ရှိပါက လည်း စာရေးသူနှင့် စာရေးဆက်သွယ်နိုင်ပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။

ချစ်စံဝင်း

**ဆက်သွယ်ရန်လိပ်စာ**

ဦးချစ်စံဝင်း
တစ်ဆင့်/ပန်းမျိုးတစ်ရာစာပေ
အခန်း ၂၀၃၊ တိုက်(၉)၊ ပုဇွန်တောင်ဥယျာဉ်အိမ်ရာ
ပုဇွန်တောင်စာတိုက်၊ ရန်ကုန်မြို့။
ဖုန်း-၂၀၂၃၇၂

# အပျိုရည်အပျိုသွေး

မြန်မာအမျိုးသမီးတစ်ဦးအနေနဲ့ လက်မထပ်ခင် ဘယ်ချစ်သူ၊ ဘယ်ယောကျ်ားနဲ့မှ တရင်းတနှီး မနေရဘူး။ ဒါဟာ ဦးတို့ လူမှုဘဝရဲ့ သံမဏိစည်းကမ်းပဲ။ ပွင့်ပွင့်လင်းလင်း ပြောရရင် ဘယ်မြန်မာအမျိုးသမီးမှ လက်မထပ်ခင် လိင်ဆက်ဆံမှု မရှိစေရဘူး။ ဘာပြုလို့လဲဆိုတော့ သမီးဟာ မြန်မာအမျိုးသမီးတစ်ယောက် ဖြစ်နေလို့ပဲ။ ဦးတို့ ယဉ်ကျေးမှုမှာ အပျိုရည်အပျိုသွေးဆိုတာ ရှိတယ်။

# မာတိကာ

| အခန်း | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
|  |

## မိမိခန္ဓာကိုယ်အား
## မိမိကိုယ်တိုင်ပြစ်မှားခြင်း

အချိန်မတိုင်မီ မေထုန်မှုသည် စိတ်ရင်းကောင်းတို့ [illegible] သွားတတ်သည်။ အိမ်ထောင်မပြုမီ လိင်ဆက်ဆံမှုပြုခြ[illegible]သည် မိမိခန္ဓာကိုယ်အား မိမိပြစ်မှားခြင်းဖြစ်၏။ အလိုတူလို့ပဲဖြစ်ဖြစ်၊ အလို မတူဘဲဖြစ်ဖြစ် ဆက်ဆံမှုပြုပြီးတာနဲ့ တစ်ပြိုင်နက် မိမိရဲ့မိန်းမသား အညွန့်ကျိုးပါပြီဆိုပြီး ချုံးပွဲချ ငိုချတတ်တာ များပါတယ်။

ပန်းမျိုးတစ်ရာစာပေ

အခန်း ၁

# သမီးချစ်သူကို သမီးချစ်တယ် သူနဲ့ လက်မထပ်ခင် တရင်းတနှီးနေသင့်လား

**မေး** ။ ။ ဆရာရှင့်...သမီးအသက် ၂၀ မပြည့်သေးပါဘူး။ သမီးမှာ ချစ်သူရှိပါတယ်။ ချစ်သူနဲ့လည်း သမီး ချိန်း တွေ့ဖြစ်နေပါတယ်။ သမီးချစ်သူကို သမီး ချစ်တယ်။ သူက တရင်းတနှီးရှိကြဖို့ အမြဲပြောဆိုနေတာပါပဲ။ ဒီနေ့အထိတော့ သမီး တင်းခံထားနိုင်သေးတယ်။ တကယ်တော့ သမီးဟာ တစ်နေ့ သူ့အလိုကို လိုက်မိမှာ သေချာတယ်။ လက်မထပ်ခင် တရင်းတနှီးနေတာ ကောင်းလား...ဘာအပြစ်တွေရှိလဲ... သူနဲ့ သမီး တရင်းတနှီးမဖြစ်ခင် မြန်မြန်အဖြေပေးပါ။

**ဖြေ** ။ ။ ဖြေပါ့မယ်...မြန်မြန်ဖြေပါ့မယ်။ ဒီအဖြေကို မဖတ်ရသေးခင် ခြေမြန်လက်မြန်တော့မလုပ်လိုက်ပါနဲ့ သမီးရယ်။ သမီးက အသက် ၂၀ မပြည့်သေးဘူးဆိုတော့ အချစ်စိတ် အချစ်သွေးတွေ ပြည့်ဖြိုးကြွယ်ဝနေတဲ့အချိန်ပေါ့။ ဒီလိုအချိန်မျိုးမှာ စိတ်လိုက်မာန်ပါ စိတ်နောက် ကိုယ်ပါ မှားတတ်ကြတယ် သမီးရဲ့...

ဦး တိတိကျကျပဲအဖြေပေးမယ်။ **မြန်မာအမျိုးသမီးတစ်ဦးအနေနဲ့ လက်မထပ်သေးခင် ဘယ်ချစ်သူ ဘယ်ယောကျ်ားနဲ့မှ တရင်းတနှီး မနေရဘူး။ ဒါဟာ ဦးတို့လူနေမှုဘဝရဲ့ သံမဏိစည်းကမ်းပဲ။** အရင်က ဆိုရင် ဦးတို့ ယဉ်ကျေးမှုက လက်မထပ်ရသေးခင် အမျိုးသမီးနဲ့ အမျိုးသားဟာ ပဝါတစ်ကမ်း လက်တစ်ကမ်း နေကြရတယ်။ သုံးနှစ် သုံးမိုး လေ့လာပြီးမှ လက်ထပ်ကြတယ်။ ဒီတော့ သမီးတို့က ပြော မယ်။ ဦးတို့ခေတ်က ကျန်ရစ်ခဲ့ပြီ၊ အခုခေတ်က ဒုံးပျံခေတ်။ အင်တာ နက်တွေ၊ အီးမေ(လ်)တွေခေတ်။ ကမ္ဘာ့ရွာဖြစ်နေပြီ။ မြန်မှဖြစ်မယ်လို့ ဆိုနိုင်ပါတယ်။ ဒါပေမယ့် ဘယ်လိုပဲခေတ်ပြောင်းပြောင်း လုံးဝ ပြောင်းလဲလို့မရတဲ့ မြန်မာ့ယဉ်ကျေးမှုဆိုင်ရာ သံမဏိစည်းကမ်းက တော့ ဘယ်မြန်မာအမျိုးသမီးမှ လက်မထပ်ခင် တရင်းတနှီးမရှိရဘူး။ တိတိလင်းလင်းပြောရရင် ဘယ်မြန်မာ့အမျိုးသမီးမှ လက်မထပ်ခင် လိင်ဆက်ဆံမှု မရှိရဘူး။ ဒီသံမဏိစည်းကမ်းကို သမီး တိတိကျကျ လိုက်နာရမယ်။ ဘာပြုလို့လဲဆိုတော့ သမီးဟာ မြန်မာအမျိုးသမီး တစ်ယောက် ဖြစ်လို့ပဲ။

ဦးတို့ယဉ်ကျေးမှုမှာ အပျိုရည် အပျိုသွေးဆိုတာ ရှိတယ်။ အဲဒါ ဟာ မြန်မာအမျိုးသမီးများရဲ့ တန်ဖိုးပဲ။ ဒါကို မြန်မာအမျိုးသမီးများ ဟာ အသက်ပေးပြီး ကာကွယ်ကြတယ်။ ဥပမာ...မြန်မာအမျိုးသမီး တစ်ယောက်ဟာ လက်မထပ်ခင် အပျိုရည်ဆုံးရှုံးရတယ်ဆိုရင် ဘယ်နည်းနဲ့ပဲ ဆုံးရှုံးရ ဆုံးရှုံးရ၊ ဒီဆုံးရှုံးမှုအတွက် မိမိကိုယ်မိမိ သတ်သေတာတောင် ရှိတယ်။

အိမ်ထောင်မပြုမီ လိင်ဆက်ဆံမှုပြုတာဟာ မိမိခန္ဓာကိုယ်ကိုမိမိ ပြစ်မှားခြင်းပဲ။ အိမ်ထောင်မပြုမီ လိင်ဆက်ဆံမှုပြုမိတဲ့ကိစ္စဟာ

လူငယ်များစွာအတွက် လုံးဝ မကျေနပ်စရာကိစ္စလည်း ဖြစ်ပါတယ်။ ဒါက ဘယ်မှာသိရသလဲဆိုရင် အမျိုးသမီးတစ်ဦးဟာ မိမိသဘောတူလို့ပဲဖြစ်ဖြစ်၊ သဘောမတူလို့ပဲဖြစ်ဖြစ် ဆက်ဆံမှုပြုခဲ့ပြီးတာနဲ့ တစ်ပြိုင်နက် မိမိရဲ့ မိန်းမသားအညွန့်ကျိုးပါပြီ၊ မိမိရဲ့ အသရေပျက်ပါပြီဆိုပြီး ချုံးပွဲချ ငိုတတ်တာ များပါတယ်။ တကယ်တော့ ဒီကိစ္စဟာ အလွန်စိတ်ပျက်စရာကောင်းတဲ့ကိစ္စ၊ အထင်နဲ့အမြင် တလွဲစီဖြစ်ရတဲ့ကိစ္စ၊ မေတ္တာရဲ့ အေးမြတဲ့ခံစားချက် မရှိတဲ့ကိစ္စ၊ ပူလောင်တဲ့ကိစ္စ၊ မဖြစ်ခင်က မချုပ်တည်းမိလေခြင်းဆိုပြီး နောင်တ,တရား ကြီးကြီးမားမားရတဲ့ကိစ္စ၊ မချုပ်တီးရကောင်းလားဆိုပြီး အရှက်ကြီး ရှက်ရတဲ့ကိစ္စသာ ဖြစ်ပါတယ်။

ဒီကိစ္စမျိုးကြုံရတဲ့ မိန်းကလေးတစ်ဦးက ဘာပြောသလဲဆိုရင် "ကျွန်မ အသိတရားလည်းဝင်လာရော အသည်းထဲ၊ နှလုံးထဲအထိ၊ ရိုးတွင်းခြင်ဆီအထိ ထိုးဖောက်ခံစားရတဲ့ ဝေဒနာတစ်ရပ် ပေါ်လာတယ်။ အရမ်းလည်း စိတ်ပျက် ဝမ်းနည်းမိတယ်။ ကိုယ့်ကိုယ်ကို အပေါစား အညှီအဟောက်လို့လည်း ထင်လာတယ်။ လက်လွန်ခြေလွန်မဖြစ်ခင်က ဘာပြုလို့ ကျွန်မကိုယ်ကျွန်မ မထိန်းနိုင်တာလဲဆိုတာနဲ့ ပတ်သက်ပြီး အပြစ်တင်လို့ မဆုံးနိုင်အောင်လည်း ရှိခဲ့တယ်" လို့ ဆိုပါတယ်။

ဒါက စိတ်ပိုင်းဆိုင်ရာ ယဉ်ကျေးမှုဆိုင်ရာ သဘောတရားတွေကိုသာ ပြောပြနေခြင်း ဖြစ်ပါတယ်။ အနောက်တိုင်း သုတေသနပြုချက်တစ်ခုက လက်မထပ်ခင် လိင်ဆက်ဆံမှု ရာဇဝင်ရှိသူတစ်ဦးဟာ လက်ထပ်ပြီးတဲ့အခါမှာ ဖောက်ပြားရန် အလားအလာ နှစ်ဆရှိလာတတ်တယ်လို့ ဆိုပါတယ်။ "အချိန်မတိုင်မီ မေထုန်မှုသည် စိတ်ရင်း

ကောင်းကို တိုက်ယူသွားတတ်သည်"လို့လည်း သမ္မာကျမ်းစာက ဆိုပါတယ်။

အပျိုရည်သန့်သန့် လူပျိုရည်သန့်သန့် နေထိုင်ခြင်းသည် လူငယ်များအား ဘေးဥပါဒ်် အန္တရာယ်အသွယ်သွယ်မှ ရှောင်ရှားနိုင်ဖို့ အထောက်အကူပြုသည်လို့လည်း အဆိုရှိပါတယ်။ စုံတွဲတစ်တွဲဟာ အချိန်မတိုင်ခင် လက်မထပ်ခင် တရင်းတနှီးဆက်ဆံဖြစ်ခဲ့ကြတယ် ဆိုပါစို့။ အဲဒီလို ဆက်ဆံပြီးတဲ့နောက်တစ်နေ့မှာ တစ်ဦးပေါ်တစ်ဦး အထင်အမြင်တွေက အမျိုးမျိုးဖြစ်လာတတ်ကြတယ်။ မိန်းကလေးက **"ငါ အညွန့်ချိုးခံရပါလား"**လို့ သံဝေဂဖြစ်နေတဲ့မနက်မှာ ယောကျ်ား လေးကလည်း **ဒီမိန်းကလေးကို ငါပြုလုပ်တိုင်းရပြီဆိုပြီး** ခံစားချက် ပြင်းပြမှုမရှိတော့ဘဲ လျော့နည်းလာတာမျိုး ရှိတတ်ပါတယ်။ တချို့ ယောကျ်ားလေးတွေက အဲဒီ ရင်းနှီးပြီးတဲ့အခါမှာ ငါနဲ့ သူ ရင်းနှီးခဲ့ကြ တယ်။ အရင်ကရော သူ ဒီလိုမျိုး ဆက်ဆံဖူးလား၊ ဒါမှမဟုတ် နောက်တစ်ယောက်နဲ့လည်း ဒီလိုပဲ ဆက်ဆံမှာလားဆိုပြီး စဉ်းစား တတ်ကြတဲ့ ယောကျ်ားလေးတွေကလည်း ရှိသေးတယ်။ မခက်ဘူး လား။

ဒါ့အပြင် အခုခေတ်မှာက အခြား လိင်ဆက်ဆံရာကရတဲ့ ရောဂါ တွေကိုထားဦး။ HIV AIDS နဲ့ဆိုတဲ့ ရောဂါကြီးက ရှိနေတယ်။ ဒီရောဂါက ကုရာနတ္ထိ ဆေးမရှိတဲ့ရောဂါ။ ရောဂါရပြီဆိုရင် သေဖို့ ကျိန်းသေတဲ့ရောဂါ။ ဒီရောဂါကြီး ထကြွသောင်းကျန်းနေချိန်မှာ တစ်ကြိမ်ပြုမိပါတယ်။ အဲဒီတစ်ကြိမ်မှာပဲ ရောဂါရလိုက်ရင် ဘဝ မဆုံးပေဘူးလား။

သမီးရည်းစား ချစ်သူဘဝ ရင်းနှီးကြတယ်ဆိုတာက ဒီကိစ္စကို ကြိုတင်ပြုလုပ်ကြမယ်လို့ ဆွေးနွေးတိုင်ပင်ပြီး ဖြစ်ကြတာမဟုတ်ဘူး။ မတော်တဆ တွေ့ကြရင်း အချစ်စိတ်တွေ အချစ်အဆိပ်တွေ ငယ်ထိပ်တက်ပြီး မှောက်မှားဖြစ်ကြတာဆိုတော့ ကြိုတင်ကာကွယ်တာတို့၊ Condom ဆောင်ထားတာတို့ဆိုတာလည်း မရှိဘဲ ဖြစ်သွားတတ်ကြတော့ လက်မထပ်ခင် ကိုယ်ဝန်ရှိလာရင်လည်း ဒီကိစ္စက အတော့်ကို ဖြေရှင်းရခက်တဲ့ကိစ္စ၊ အရှက်တကွဲ အကျိုးနည်းရတဲ့ကိစ္စ၊ ကိုယ်ဝန်ပျက်ကျ ဖျက်ချမှုတွေကို အခြေခံပြီး မိန်းမသားတွေအတွက် အရေးကြီးတဲ့ သားဖွားနိုင်စွမ်းပါ ဆုံးရှုံးချင် ဆုံးရှုံးရတဲ့ကိစ္စဖြစ်လို့ လက်မထပ်ခင် တရင်းတနှီးနေမှုကို မြန်မာမိန်းကလေးတိုင်း သံမဏိစည်းကမ်းနဲ့ ရှောင်ရှားရမှာဖြစ်ကြောင်း ရေးသား ဖြေကြားအပ်ပါတယ်။

◆

## အပျိုစင်ဘဝကို အထိခိုက်မခံ

ချိန်းဆိုသွားလာရာတွင် မိမိအနေနှင့် အတိအလင်း စည်းကမ်းချက်တစ်ရပ်ကို သတ်မှတ်ထားရမည်။ ထိုသတ်မှတ်ချက်သည် ချိန်းဆိုသွားလာမှုရှိသော်လည်း မိမိသည် ဘယ်သောအခါမှ အပျိုစင်ဘဝကို အထိအခိုက်ခံမည်မဟုတ်ဟူသော စည်းကမ်းချက်ဖြစ်သည်။ စည်းကမ်းသတ်မှတ်ရုံဖြင့်မပြီး။ မိမိအနေနှင့်လည်း အမူအရာ၊ အပြော အဆို၊ အဝတ်အစားမှစ၍ တစ်ဖက်လူ အထင်မှားအောင် မပြုလုပ်ရန် လိုပါသည်။

## အပျိုစင်ဘဝကို အထိခိုက်မခံ

ချိန်းဆိုသွားလာရာတွင် မိမိအနေနှင့် အတိအလင်း စည်းကမ်းချက်တစ်ရပ်ကို သတ်မှတ်ထားရမည်။ ထိုသတ်မှတ်ချက်သည် ချိန်းဆိုသွားလာမှုရှိသော်လည်း မိမိသည် ဘယ်သောအခါမှ အပျိုစင်ဘဝကို အထိအခိုက်ခံမည်မဟုတ်ဟူသော စည်းကမ်းချက်ဖြစ်သည်။ စည်းကမ်းသတ်မှတ်ရုံဖြင့်မပြီး။ မိမိအနေနှင့်လည်း အမူအရာ၊ အပြောအဆို၊ အဝတ်အစားမှစ၍ တစ်ဖက်လူ အထင်မှားအောင် မပြုလုပ်ရန် လိုပါသည်။

## အခန်း (၂)

# နှလုံးသားကိုကာကွယ်ပါ

**မေး** ။ ။ ဆရာရှင်... ကျွန်မ အိမ်ထောင်မကျခင် သူနဲ့ တရင်းတနှီး မဖြစ်ချင်တာ အမှန်ပါပဲ၊ အခြေအနေတွေက ထိန်းမှ ထိန်းလို့ရပါ့မလားဆိုပြီးလည်း လက်မတင်လေးတွေ ဖြစ်နေတယ်။ ကျွန်မ ဘယ်လိုကာကွယ်ရမလဲ။

(အမြန်အဖြေပေးစေလိုသူ)

**ဖြေ** ။ ။ ဒီမေးခွန်းမေးသူက အခန်း၁ ကိုရော၊ အခန်း ၃ ကိုပါ ဆက်တိုက် ဖတ်ရှုစေလိုပါတယ်။ အိမ်ထောင်မကျခင် သူနဲ့ တရင်းတနှီးမဖြစ်ချင်ရင် တရင်းတနှီးမဖြစ်အောင် နေရမယ်။ တရင်းတနှီးမဖြစ်အောင် ကြိုးစားရမယ်ပေါ့ သမီးရယ်...။

သမီးရေ အပျိုစင်ဘဝကို ထိန်းသိမ်းထား။ အားအကြီးမားဆုံး ခြိမ်းခြောက်မှုပြုနေသောအရာသည် ချိန်းဆိုတွေ့ဆုံခြင်းနှင့် လူပျိုလှည့်ခံရခြင်းပင်ဖြစ်တယ်လို့ဆိုတာ ရှိပါတယ်။

ပန်းမျိုးတစ်ရာစာပေ

It is dating and courtship, how-ever that often present the greatest challenge to remaining chaste.

ဒီကိစ္စနှင့်ပတ်သက်လို့ သုတေသနစာတမ်းတစ်ခုက ပြောတာကတော့ အိမ်ထောင်မပြုခင် ယောကျ်ားလေးနှင့် မိန်းကလေးတို့သည် အတူအမြဲ သွားလာနေဖြစ်ကြရာမှ၊ အလွန်အမင်းခင်မင်မိရာမှ၊ တစ်ဦးနှင့်တစ်ဦး ချစ်မေတ္တာမျှရာမှ အရင်းနှီးလွန်မှုချောက်ထဲသို့ ကျချောက်သွားခြင်းလို့ ဆိုပါတယ်။

အခြားသုတေသနပြုချက်တစ်ရပ်ကတော့ ဖိဝ ရာခိုင်နှုန်းသောဖြစ်ရပ်များ၌ လူငယ်များသည် ကြိုတင်ကြံစည်မှုမရှိဘဲ အလိုအလျောက် ရင်းနှီးမှုလွန်ကဲခြင်းဘဝသို့ ရောက်ကြရတယ်လို့လည်း ဆိုပြန်ပါတယ်။

ဒီလိုဆိုလျှင် ချိန်းဆိုခြင်းသည် အန္တရာယ်ရှိသောကိစ္စတစ်ရပ်ဖြစ်တယ်လို့ ဆိုရမှာပါပဲ။ ချိန်းဆိုတွေ့ဆုံကြရာမှာ အကြောင်းရပ်နှစ်ရပ်ရှိပါတယ်။

အကြောင်းရင်းတစ်ရပ်ကတော့ အိမ်ထောင်ပြုဖို့ အရွယ်ရောက်နေ၍ မိတ်မောင်ဘွားများရဲ့ ခွင့်ပြုချက်၊ သဘောတူချက်နဲ့ ချိန်းဆိုသွားလာခြင်းဖြစ်ပါတယ်။

အခြားအကြောင်းအရာတစ်ရပ်ကတော့ မိမိက ချစ်မေတ္တာမျှရန် ကြံရွယ်ချက်နှင့် သူ့အကြောင်းသိအောင်၊ ပိုမိုရင်းနှီးအောင် ချိန်းဆိုကြခြင်းဖြစ်ပေရာ နှစ်နည်းစလုံးမှာ မိမိ၏ အပျိုစင်ဘဝကို တည်မြဲနေအောင်ကြိုးစားရမယ်ဆိုတဲ့အချက်က အရေးကြီးပါတယ်။

ချိန်းဆိုသွားလာမှုပြုပါက ယောကျ်ားလေးများသည် ချစ်ခင်ယုယမှုကို ပြသရင်း လက်ဖဝါးလေးကို အမြတ်တနိုးနမ်းခြင်း၊ ယုယမှုကို

ပြုခြင်းများ ရှိတတ်စမြဲဖြစ်ပါတယ်။ ထိုအချိန်တွင် မိမိအနေနှင့် အတိအလင်း စည်းကမ်းချက်တစ်ရပ်ကို သတ်မှတ်ထားခြင်းသည် အကောင်းဆုံးဖြစ်ပါ၏။ ထိုသတ်မှတ်ချက်သည်ကား မိမိသည် ချိန်းဆိုသွားလာမှုရှိသော်လည်း အပျိုစင်ဘဝကို အထိအခိုက်ခံမည် မဟုတ်၊ လွန်ကဲသောရင်းနှီးမှုမျိုးကို သည်းခံမည်မဟုတ်ဟု ကြိုတင် စည်းကမ်းချက် သတ်မှတ်ထားရန်ဖြစ်သည်။ ထိုကိစ္စကို တစ်ဖက် ယောကျ်ားလေးဖြစ်သူ သိရှိထားခြင်းဖြင့် သူ့ဘက်က ကြိုးပမ်းမှုများ စွာ လျော့ပါးသွားနိုင်ပါသည်။

ကန့်သတ်ချက် စည်းကမ်းထားရှိရုံမျှနှင့် မပြီးသေးပါ။ ချိန်းဆို သွားလာမှုတွင် အမူအရာ အပြောအဆိုများနှင့် ပတ်သက်၍ တစ်ဖက် လူ အထင်မှားအောင် မပြုလုပ်ရန် သတိရှိရမည် ဖြစ်ပါသည်။ အဝတ်အစားများကို ကျပ်ကျပ်ဝတ်ခြင်း၊ ကိုယ်လုံးကိုယ်ထည်ပေါ် အောင်ဝတ်ခြင်း အစရှိသည်တို့ကို ရှောင်၍ ရိုးရိုးဝတ်စားသွားလာရန် လိုအပ်ပါ၏။

တစ်ဖန် ချိန်းဆိုတွေ့ဆုံရာတွင် လွတ်လပ်မှုဆီသို့ ဦးတည်သွားနိုင် သောအခြေအနေများကို ရှောင်ရန် လိုအပ်ပါတယ်။ ဥပမာ–အိမ်မှာ တစ်ဦးတည်းရှိနေခြင်း၊ အခန်းထဲ၌ တစ်ဦးတည်းရှိနေခြင်း၊ ကား တစ်စီးတွင် နှစ်ဦးတည်း အတူသွားလာခြင်းမျိုးမဖြစ်အောင် ရှောင်ကြဉ် ရမည်ဖြစ်ပါသည်။

ချိန်းဆိုသွားလာရာတွင် အုပ်စုလိုက် သို့မဟုတ် အဖော်ဖြင့်သာ ချိန်းဆိုရာသို့ သွားသင့်ပါတယ်။ တတ်နိုင်သမျှ နှစ်ဦးတည်းရှိနေသည့် အနေအထားကို ရှောင်ရမည်ဖြစ်ပါတယ်။ မတော်တဆ ထိုအခြေ

အနေမျိုးနှင့် ကြုံလာပါက အိမ်သို့ အမြန်ပြန်ရမည်ဖြစ်သည်။ ထိုသို့ ပြန်ရာတွင် ခွဲခွာခါနီး နှုတ်ဆက်မှုကို အကြာကြီးမပြုလုပ်ရန် လိုအပ်သည်။ ချိန်းဆိုမှုတိုင်းသည် အခြားလူများနှင့် မကင်းကွာသော တွေ့ဆုံသွားလာခြင်းမျိုးကိုသာ ပြုလုပ်ရန် လိုအပ်၏။

မိန်းကလေးများအဖို့ သာမန်အချိန်ထက်ပို၍ သတိထားရမည့် အချိန်မျိုး ရှိတတ်ပါ၏။ ထိုအချိန်မျိုးမှာ မိမိကိုယ်ရေးကိုယ်တာ ဆုံးရှုံးထိခိုက်မှုကြောင့် မိမိကိုယ်တိုင် စိတ်ဓာတ်ကျနေချိန်၊ မိဘမောင်ဖွား၊ ညီမ အစ်မတို့နှင့် သဘောထားကွဲလွဲမှုဖြစ်ပေါ်နေသော အချိန်များ ဖြစ်သည်။ ထိုကာလမျိုးတွင် ချိန်းဆိုမှုရှိပါက မိမိကိုယ်မိမိ အထူးဂရုစိုက်ဖို့လိုပါတယ်။

တစ်ဖန် မိမိနှင့်ချိန်းဆိုသူသည် အရက်သေစာ သောက်စားထားပါက လက်ခံတွေ့ဆုံခြင်းကို ရှောင်ရမည်ဖြစ်ပါတယ်။ အရက်သေစာသည် ချုပ်တီးမှုများကို ပျက်ပြားစေနိုင်ပါတယ်။ စုံတွဲတစ်တွဲသည် ခံစားချက်များ မြင့်မားလာ၍ တစ်ဦးနှင့်တစ်ဦး ရင်းနှီး နီးကပ်မှုသည် အန္တရာယ်ဖြစ်လောက်အောင် အခြေအနေရှိလာပါက မည်သို့ရှောင်ရှားပါမည်နည်းဆိုသောအချက်ကို မိန်းကလေးများဘက်က ကြိုတင်သိထားဖို့ လိုပါတယ်။ ဒါကတော့ တစ်ဦးနဲ့တစ်ဦးအကြား ဖြစ်ပေါ်လာတဲ့ ထိုခံစားချက်အခြေအနေကို ပျက်ပြား ရပ်တန့်သွားအောင် ပြုလုပ်ရေး ဖြစ်ပါတယ်။

အမျိုးသမီးတစ်ဦးဟာ ချစ်သူနဲ့ ချိန်းဆိုတွေ့ဆုံရာ တစ်ဦးနှင့်တစ်ဦး ခံစားချက်ဖြစ်ပေါ်လာသောအခြေအနေသို့ ရောက်ရှိသွားချိန်တွင် သတိရှိသောမိန်းကလေးဆိုပါက "အို…ကျွန်မတို့ သိပ်ရင်းနီးမှု

ဖြစ်နေပြီ။ ကျွန်မတို့ ရပ်သင့်ပြီ”ဟုဆိုပါက ခံစားချက်အခြေအနေများ ရုတ်ခြည်း ပျက်ပြားသွားခဲ့ပြီး မိမိချစ်သူသည် မိမိအား ချက်ချင်း အိမ်သို့ လိုက်ပို့တတ်ပါတယ်။ ထိုအချိန်တွင် မိမိချစ်သူက ဆက်လက် တောင်းဆိုမှုပြုလျှင် ပြတ်ပြတ်သားသား ရပ်တည်ရမည်ဖြစ်ပါတယ်။ ဤအခြေအနေမျိုးတွင် ငြင်းဆိုရမည်ဟုဆိုသောကိစ္စမှာ သင့်အတွက် အခက်ခဲဆုံးလည်း ဖြစ်နိုင်ပါတယ်။

သို့သော် ထိုအခက်ခဲဆုံးကိစ္စကို သင်ဆောင်ရွက်ရမည်ဖြစ်သည်။

ရှေးရိုးဆန်သည်ဟု ဆိုလျှင်ဆို၊ ချိန်းဆိုသွားလာရာတွင် အဖော် ခေါ်၍သွားခြင်းသည် စိတ်ကူးကောင်းတစ်ရပ် ဖြစ်ပါ၏။ သို့သော် အဖော်သည် သူ့လူကိုယ့်ဘက်သားမဖြစ်ဖို့ လိုသည်။ အဖော်ကိုလည်း ဘာကြောင့် သူ့အဖော်လိုက်လာရသည်ကို တိတိကျကျ အသိပေးထား ရမည်ဖြစ်ပါ၏။

အချို့က “ဒီလို ချိန်းတွေ့တဲ့နေရာမှာ အဖော်ခေါ်သွားရင် တစ်ဦး က တစ်ဦးကို မယုံကြည်သလိုဖြစ်မှာပေါ့”ဆိုကြပါ၏။ မယုံကြည်၍ မဟုတ်။ စိတ်ချလက်ချ တွေ့ဆုံလိုခြင်းကြောင့်ဖြစ်သည်။ အဖော် ပါလာတော့ အနှောင့်ယှက်မဖြစ်ဘူးလားဟု မေးစရာရှိပါ၏။ ရှိန်ပါ သည်။ ဒီကိစ္စသည် အနှောင့်အယှက်ရှိမှ လုံခြုံမှုရှိမည်ဖြစ်ရာ အနှောင့် အယှက်လေးတစ်ခုရှိနေဖို့ ခေါ်လာတာဖြစ်ပါ၏။

ဘယ်လွတ်လပ်ပါ့မလဲဟုလည်း ပြောစရာရှိပါ၏။ အချင်းချင်း နှစ်ကိုယ်ကြားပြောဆိုရန်ရှိသောအချိန်တွင် အဖော်လိုက်သူနှင့် ခွာခွာ လေးသွားပြီး ပြောလိုက်ပါက လွတ်လပ်မှုရနိုင်ပါ၏။ အဖော်ပါ၍ ကာယိကအောက်တော့ဖြစ်နိုင်သည်ဟု တေဒကတက်လိုပါက တက်နိုင်

ပါ၏။ သို့သော် ချိန်းဆိုမှုသည် မလွန်ကဲစေရေးအတွက် အကာအကွယ်ပေးရန် ကသိကအောက်ဖြစ်စေမည်ဟု ဆိုပါကလည်း ဖြစ်ထိုက်ပါသည်ဟု အကြံပေးလိုပါတယ်။ ။

◆

## ခြောက်ကပ်ကပ်အနိုင်ဆုံးအရာ

ကျွန်မတို့ တွေ့ဖန်များလေ ငြီးသထက်ငြီးလေ ဖြစ်လာတယ်။ ကြာတော့ ကျွန်မတို့အတွက် အနမ်းဆိုတာဟာ ခြောက်ကပ်ကပ် အနိုင်ဆုံးအရာ ဖြစ်လာတယ်။

## အခန်း (၃)

# ချိန်းတွေ့ပါရစေလို့ တောင်းဆိုနေပါတယ် ကျွန်မ လက်ခံလိုက်ရမလား

**မေး** ။ ။ ဆရာရှင်၊ ကျွန်မ သူ့ကိုချစ်သူအဖြစ် လက်ခံလိုက်ပါပြီ။ အခု သူက တွေ့ပါရစေဆိုပြီး ပူဆာနေပါတယ်။ ကျွန်မ ခုထိတော့ တောင်းဆိုချက်ကို ငြင်းထားဆဲဖြစ်ပါတယ်။ အကြာကြီး ငြင်းထားရလောက်အောင် ကျွန်မစိတ်ကလည်း မခိုင်ဘူးဆိုတာ ကျွန်မ သိပါတယ်။ နောက်ပြီး ကျွန်မ သူ့ကို သနားလည်း သနားတယ်။ သူနဲ့ချိန်းတွေ့ဖို့ကို လက်ခံလိုက်ရတော့မလားဆရာ။

(မမြင့်မြင့်ဆွေ–လိပ်ပြာကန်၊ ပဲခူး)

**ဖြေ** ။ ။ ချိန်းတွေ့တယ်ဆိုတာကတော့ ချစ်သူမိန်းကလေးနဲ့ ယောကျ်ားလေးတို့ အထိန်းအကွပ်မပါဘဲ အတူတကွ အချိန်များစွာ တွေ့ဆုံဆက်ဆံသွားလာနေကြတာကို ချိန်းတွေ့တာလို့ ဆိုတာပါပဲ။ ချိန်းတွေ့ပါတော့လို့ပြောဖို့ ခက်သလို၊ မချိန်းတွေ့နဲ့လို့

အကြံပေးဖို့လည်း ခက်ပါတယ်။ မြန်မာ့ရိုးရာကတော့ မိန်းကလေးရဲ့ ညှော်ခန်း သို့မဟုတ် လသာဆောင် မိဘမောင်ဘွားများရဲ့ ရှေ့မှောက်မှာ ချိန်းတွေ့ခွင့်ပြုတတ်ကြတာပါပဲ။ ချစ်သူသမီးရည်းစားဟာ တွေ့ဆုံပြီး တစ်ဦးရဲ့သဘောထားတွေကို တစ်ဦးအား ပြောဖို့လိုအပ်ပါတယ်။ စိတ်သဘောထားတွေ ညှိနှိုင်းကြဖို့လည်း လိုအပ်ပါတယ်။ ဒါမှလည်း တစ်ဦးစိတ်ကို တစ်ဦးက သိရမှာပေါ့။ ဒါပေမယ့် မြန်မာတွေထဲမှာလည်း "အေးသာရေ၊ ကောက်ရိုးပုံ"လို့ဆိုပြီး ကောက်ရိုးပုံမှာ ချိန်းတွေ့တတ်တာမျိုးလည်း ရှိပါတယ်။ ချိန်းတွေ့တာနဲ့ပတ်သက်လို့ အခန်း ၂ မှာလည်း ရေးထားပါတယ်။ အခန်း ၂ က ဖြေဆိုချက်တွေကိုလည်း ဖတ်ကြည့်ပါ။

အထူးသဖြင့်ကတော့ မြန်မာလူငယ်လူရွယ်များဟာ ကျေးလက်မှာဆိုရင် ရေခပ်ရင်း၊ ကောက်စိုက်ရင်း၊ ကျောင်းကန်ဘုရားသွားရင်း၊ ပွဲလမ်းသဘင်သွားရင်း တွေ့ဖြစ်ကြ ဆုံဖြစ်ကြ ပြောဆိုဖြစ်ကြတာများပါတယ်။ ရန်ကုန်လိုမြို့ကြီးတွေမှာကတော့ ပန်းခြံထဲမှာ ရုပ်ရှင်ရုံမှာ ရုပ်ရှင်ကြည့်ရင်း ဘုရားဖူးရင်း တွေ့ကြတာလည်း ရှိပါတယ်။ အချို့ ဘုရားစောင်းတန်းတွေမှာ အတွဲများ မလာရလို့တောင် စာရေးထားကြတယ်။ ချစ်သူနှစ်ဦးအဖို့ ဘုရားဖူးတာ၊ ဆုမွန်ကောင်းတောင်းတာ၊ ပန်းရေချမ်းကပ်တာ ကိစ္စမရှိပါဘူး။ စောင်းတန်းမှာ တပူးတွဲတွဲနေတာတော့ အမြင်မတော်လို့ တားထားကြတာပါ။

ယောကျ်ားလေးတွေကတော့ ဒီလိုပဲ ပထမတော့ ချစ်ပါရစေ၊ မောင့်အချစ်ကို လက်ခံပါလို့ ဆိုတာပဲ။ ချစ်ပါရစေဆိုလို့ ခွင့်ရရင် တွေ့ပါရစေ၊ လက်ကလေးကိုင်ပါရစေ၊ ပါးလေးနမ်းပါရစေ စသည်

ဖြင့် အခွင့်အရေးပေးရင် ပေးသလို မဆုံးနိုင်ဘဲရှိတတ်ပါတယ်။ သမီးရည်းစားဖြစ်ပြီဆိုရင်တော့ ချိန်းတွေ့ဖို့အတွက် စေ့ဆော်တိုက်တွန်းမှုတွေကလည်း ရှိစမြဲပါပဲ။ မိန်းကလေးဘက်ကလည်း သူနဲ့ ချိန်းတွေ့ဖို့ ရင်ခုန်ချင်တယ်။ အဲဒီ ရင်ခုန်တဲ့အရသာလေးကို ခံစားချင်တယ်။ ခံစားလည်း ခံစားထိုက်ပါတယ်။ နောင်တစ်သက် တစ်ဘဝမှာ ဒီလို ရင်ခုန်ရတာမျိုးက ဘယ်တော့မှ မခံစားနိုင်တော့ဘူးမဟုတ်လား။

ဒီတော့ ဦး အကြံပေးချင်တာက မိန်းကလေးဘက်က ချိန်းတွေ့ဖို့ အသင့်ဖြစ်ပြီလား၊ ချိန်းတွေ့ရလောက်အောင် ရင့်ကျက်ပြီလားဆိုတဲ့ အချက်က အလွန်အရေးကြီးပါတယ်။ **အသင့်ဖြစ်ပြီလို့လည်း ထင်တယ်။ ရင့်လည်း ရင့်ကျက်ပြီဆိုရင်တောင် ချိန်းတွေ့တဲ့အခါမှာ ဦးနှောက်ကို သုံးပြီး၊ သတိတရား အမြဲလက်ကိုင်ထားပြီး ကျက်သရေရှိရှိ ချိန်းတွေ့ဖို့ ကြိုးစားရပါမယ်။ ချိန်းတွေ့ရာမှာ အမှားမဖြစ်ပါစေနဲ့။**

ရည်းစားထားတာဟာ ကလေးကစားတာ မဟုတ်ပါဘူး။

ရည်းစားထားတာဟာ အိမ်ထောင်ဖက်ကို ရွေးချယ်တာပါ။

ရည်းစားဘဝဆိုတာဟာ မပိုင်ဆိုင်တဲ့ဘဝဖြစ်တယ်။

ရည်းစားထားတာ ပိုင်ဆိုင်ဖို့ ကြိုးစားကြတဲ့ဘဝဖြစ်တယ်။

ဒီလိုဘဝမျိုးမှာ ဘာကိုမှ ပုံမအောလိုက်ဖို့လိုတယ်ဆိုတာ ကြပ်ကြပ် သတိထားစေလိုပါတယ်။

ချိန်းတွေ့ရာမှ အကြီးဆုံးပြဿနာက တစ်ဦးနဲ့တစ်ဦး အလွန်အမင်း ရင်းနှီးသွားမှာ အစိုးရိမ်ရဆုံးပဲ။ ပွင့်ပွင့်လင်းလင်းပြောရရင် ရည်းစားဘဝ ချိန်းတွေ့ရာက လိင်ဆက်ဆံမှုမဖြစ်ဖို့ အစွမ်းကုန် ကာကွယ်ဖို့လိုပါတယ်။

ဒါကလည်း လွယ်တဲ့ကိစ္စတော့ မဟုတ်ပါဘူး။

ချိန်းတွေ့ဖြစ်ကြတဲ့ လူငယ်တစ်ဦးက ဘာပြောလဲဆိုတော့ “ကျွန်တော်တို့ ချိန်းတွေ့စက သူ့လက်ကလေးကိုတောင် မကိုင်ရက်ပါဘူး။ နမ်းတောင် မနမ်းရက်ဘူး။ သူနဲ့ စကားပြောနေရရင် ကျေနပ်တာပဲ။ ရင်ထဲက သူ့ကိုချစ်တဲ့စိတ်တွေက သူနဲ့ ထိကပ်နေချင်တယ်။ နောက်တော့ လက်ကလေးကိုကိုင်ပြီး အလိုလို နမ်းဖြစ်ကြတယ်။ နမ်းမိတော့ ပိုမိုလွန်ကဲစွာ နေချင်တဲ့စိတ်ပေါ်လာတယ်။ အတွင်းစိတ်က လှုံ့ဆော်တော့ လှုံ့ဆော်တဲ့အတိုင်း ကြိုးစားမိတာပါပဲ”လို့ ပြောဖူးပါတယ်။

ဆန့်ကျင်ဘက်မိန်းကလေးနဲ့ ယောကျ်ားလေးတို့ အတူတကွ နေကြတယ်ဆိုရင် ဇီဝကမ္မဆိုင်ရာ အစိတ်အပိုင်းတွေက စေ့ဆော်မှု၊ လှုံ့ဆော်မှုတွေ ရှိတတ်စမြဲပါပဲ။ အတူနေတာများလေ၊ အဲဒီစေ့ဆော်မှုကများလေ၊ ဆိတ်ငြိမ်ကွယ်ရာမှာဖြစ်လေ ဒီလှုံ့ဆော်မှုက ပိုပြင်းထန်လေဖြစ်တယ်။ ဒါကိုလည်း သတိတရားနဲ့ကလွဲပြီး ဘာနဲ့မှ မတားဆီးနိုင်ဘူး။ ခန္ဓာကိုယ်ဟာ အဲဒီသဘောတွေနဲ့ တည်ဆောက်ထားတာကိုး။

ဒီသဘောသဘာဝတွေကို သိပြီလို့ဆိုရင် လူငယ်တွေဟာ ချိန်းတွေ့ကြမယ်လို့ ဆုံးဖြတ်တဲ့အခါမှာ ထိန်းချုပ်နိုင်တဲ့အခြေအနေနဲ့ အချိန်အခါ အရွယ်မရောက်သေးရင် ချိန်းမတွေ့သင့်ပါဘူး။ အဲဒီအချိန်မှာ ချိန်းတွေ့ခဲ့ရင် မနိုင်မနင်းကိစ္စတွေ ဖြစ်လာနိုင်ပါတယ်။ လူငယ်တွေဟာ မစဉ်းစားဘဲ ချိန်းတွေ့ဖြစ်ကြပြီး တစ်ခါသေပြီးမှ ပျဉ်ဖိုးနားလည်ကြတယ်။ သေတယ်ဆိုမှတော့ ပြန်ရှင်မလာနိုင်တော့ပါဘူး။ ချိန်းတွေ့ရာက မတရားတဲ့၊ အချိန်အခါမသင့်သေးတဲ့၊ ပြင်ဆင်မှုမရှိတဲ့၊ အရွယ်မတိုင်သေးတဲ့ လိင်ဆက်ဆံမှုကို ဖြစ်ပေါ်စေတယ်ဆိုတဲ့အချက်ကို အမြဲသတိထားရပါမယ်။

နိုင်ငံတကာက သုတေသနပြု ဆန်းစစ်မှုတစ်ခုအရ မိန်းကလေး ၆၅ ရာခိုင်နှုန်းနဲ့ ယောကျ်ားလေး ၄၃ ရာခိုင်နှုန်းဟာ ချိန်းတွေ့စဉ် မလိုလားပါလျက်နှင့် လိင်ဆက်ဆံဖြစ်ခဲ့ကြောင်း ဝန်ခံထားတာ ရှိပါတယ်။ မိန်းကလေးတစ်ယောက်ရဲ့ ဖွင့်ဟဝန်ခံချက်တစ်ခုမှာဆိုရင် "ကျွန်မတို့ တွေ့ဖန်များလေ၊ ငြိသထက်ငြိလေ ဖြစ်လာတယ်။ ကြာတော့ အနမ်းဟာ ကျွန်မတို့အတွက် ခြောက်ကပ်ကပ်အနိုင်ဆုံးအရာ ဖြစ်လာတယ်"လို့ ဆိုပါတယ်။

ဒါကြောင့် ဥပဒေတစ်ခုက ချိန်းတွေ့တဲ့အကြိမ်အရေအတွက်ဟာလည်း ခဏခဏမဖြစ်သင့်ပါဘူး။ ဆယ်ကျော်သက်အရွယ် အချစ်ဇာတ်လမ်းများဟာ အမြဲတမ်းလို့ ဆိုရမလောက် ပျက်စီးတတ်ကြပါတယ်။ ဒါကြောင့် ဒီအခြေမခိုင်တဲ့ သဲသောင်ခုံပေါ်မှာ အပြီးအပိုင်နေဖို့ အိမ်ကို ဘာပြုလို့ ဆောက်ဖို့ကြိုးစားကြမှာလဲ။ တကယ်တော့ ဆယ်ကျော်သက်အရွယ် ချစ်သူနှစ်ဦး လက်တွဲပြီး လမ်းလျှောက်လာတဲ့အခါ မြင်ရသူတိုင်းအတွက် အားရကျေနပ်စရာမြင်ရတာ အမှန်ပါပဲ။ ဒါပေမယ့် အဲဒီလက်တွဲမှုဟာ အခြေမခိုင်ကြတာက ခက်တယ်။ ဆယ်ကျော်သက် အသည်းကွဲမှုနဲ့ ဇာတ်သိမ်းမလှတာတွေက များတော့ ကွဲအက်တဲ့ အသည်းနဲ့ ပြည်ဖုံးကားချတတ်တဲ့ ဒီဇာတ်လမ်းမှာ ဇာတ်သိမ်းမှုဆိုတဲ့ သတိတရားဟာ အလွန်အရေးကြီးတဲ့အရာပါပဲ။

ဥပမာ မော်တော်ကားတစ်စီးဟာ တစ်နာရီကို မိုင် ၂၀ နှုန်းနဲ့ မောင်းနေမယ်ဆိုရင် စီးရတာလည်းကောင်းတယ်။ အန္တရာယ်လည်း ကင်းတယ်။ လိုရာခရီးလည်းရောက်တယ်။ ဒါပေမယ့် နေးတယ်ထင်ပြီး တစ်နာရီ မိုင် ၆၀ နှုန်းနဲ့ မောင်းမယ်ဆိုရင် အန္တရာယ် ချက်ချင်း ဖြစ်နိုင်တယ်။ အန္တရာယ်ဖြစ်မှတော့ လိုရာခရီးလည်း ဘယ်ရောက်

နိုင်တော့မှာလဲ။ ခဏခဏချိန်းတွေ့တာ၊ အချိန်များများတွေ့တာ ဆိတ်ကွယ်ရာမှာ တွေ့ဆုံကြတာတွေဟာ ရာဂကိစ္စကို လှုံ့ဆော်ရာကျလို့ ဒါတွေကို ကြပ်ကြပ်ထိန်းသိမ်းဖို့လိုပါတယ်။ ရည်းစားဘဝ အလွန်ရင်းနှီးမှုဟာ ကွေကွင်းမှုနဲ့ အလွန်ဝမ်းနည်းဖွယ်ရာများကို ဖြစ်နိုင်ပါတယ်။

အိမ်ထောင်ပြုရန် အလားအလာမရှိသေးဘဲ မေတ္တာနှောင်ကြိုးရစ်ပတ်မှုဟာ နှစ်ဦးစလုံးကို အသည်းကွဲမှုနှင့် အကျိုးနည်းမှုကို ဖြစ်စေပါတယ်။ အတွေ့အာရုံအရသာကို မြည်းစမ်းလိုရုံမျှနှင့် တစ်စုံတစ်ယောက်အပေါ် အချစ်အာရုံ စုပုံအပ်နှံခြင်းသည် အပေးအကမ်းရက်ရောလွန်းရာကျပါတယ်။

ရည်းစားထားမိပြီဆိုရင် အမေကို အသိပေးထားပါ။ မိဘများဟာ မိမိတို့မမြင်နိုင်တဲ့ အန္တရာယ်များကို မြင်တတ်ကြပါတယ်။ မိဘများဟာ တစ်ချိန်က သူတို့လည်း ဆယ်ကျော်သက်များသာ ဖြစ်ခဲ့ကြတဲ့အတွက် အဲဒီအတွေ့အကြုံတွေ သူတို့ထံမှာလည်း ရှိကြပါတယ်။ ရည်းစားထားမှုကို မိဘက သဘောမတူလျှင် မပုန်ကန်ပါနှင့်။ အရွယ်မတိုင်သေး၍ စောင့်ဆိုင်းနေရခြင်းဟု မှတ်ပါ။ အရွယ်ရောက်ပါက အိမ်ထောင်မှုပြုပေးခြင်းသည် မြန်မာမိဘများ၏ ဝတ္တရားတစ်ရပ်အနေနှင့် ပါဝင်ပြီး ဖြစ်ပါတယ်။ လူငယ်များအတွက် ပွင့်လန်းစအရွယ်ကို ကျော်လွန်လေ ရမ္မက်ကို ပိုပြီး ထိန်းကွပ်နိုင်လေဖြစ်ပါတယ်။ ချိန်းတွေ့ဖို့ဆိုတာ ထားဦး။ မိန်းကလေးတစ်ယောက်အတွက် လင်ကောင်းတစ်ယောက်မှာ ရှိအပ်တဲ့ အရည်အသွေးနဲ့ပြည့်ဝတဲ့လူတစ်ယောက်ကို မတွေ့မချင်း ရည်းစားမထားဖို့ ဦးတော့ အကြံပေးချင်တာပါပဲကွယ်။

◆

ပန်းမျိုးတစ်ရာစာပေ

## အချစ်စစ်အချစ်မှန်နဲ့ အရူးအမူးအချစ်

အချစ်စစ်အချစ်မှန်နဲ့ အရူးအမူးအချစ်တို့ဟာ ပြဒါးတစ်လမ်း သံတစ်လမ်း ဆိုကြပေမယ့် ခံစားရတဲ့အခါမှာတော့ နှစ်မျိုးစလုံးဟာ ရူးသွပ်စေလောက်အောင် ပျော်မြူး ကြည်နူးကြရတာမျိုးပဲ။ ဒီတော့ မချစ်ကြလို့ ပစ်ခွာကြရပြီဆိုရင်လည်း ချစ်တတ်တဲ့နှလုံးသားတွေအဖို့ ရင်နာကြရတာဟာ မမွှတာပါပဲ။

ပန်းမျိုးတစ်ရာစာပေ

# အခန်း (၄)

## ကျွန်မရဲ့မေတ္တာထုဟာ
## မျက်ရည်စီးကြောင်းအတွင်း ပျော်ဝင်ပျောက်ကွယ်ခဲ့ပါပြီ။
## ဒါပေမယ့် အပြစ်မမြင် ချစ်ခင်လျက်ပါပဲ။
## ကျွန်မ ဘာလုပ်ရမလဲ။

**မေး** ။ ။ ကျွန်မ သူနဲ့လက်ထပ်ဖို့ စိတ်ကူးယဉ်အိပ်မက်တွေ၊ သူနဲ့ ကျွန်မ ကတိတွေ၊ ရည်မှန်းချက်တွေ အတူတကွ ထားခဲ့ပြီးပါပြီ။ နှစ်ကိုယ်တူ ကြည်နူးစရာ ရွှေလက်တွဲ၍ တစ်ယောက်ကို တစ်ယောက် ခုံမင်နှစ်သက်ခဲ့ကြတာလည်း အမှန်ပါပဲ။ အသည်းချင်း ညီညီညာညာထပ်လို့ ကြည်ကြည်ဖြူဖြူ ပုံအပ်ကြမယ်လို့ စကားတွေလည်း ဆောင်ဖွဲ့ခဲ့ကြဖူးပါတယ်။ အခုတော့ မောင်က တစ်ပါးသူရင်ခွင်ကို ပြေးဝင်သွားခဲ့လို့ ကျွန်မအသည်းတွေ ကွဲကြေခဲ့ရပါပြီ။ သူ့အပေါ်ချစ်ခဲ့ရတဲ့ ကျွန်မမေတ္တာထုဟာလည်း မျက်ရည်စီးကြောင်းအတွင်း ပျော်ဝင် ပျောက်ကွယ်ရပါပြီ။ ကျွန်မ ဘာလုပ်ရပါမလဲ။ သူ့ကို ကျွန်မ ခုထိ အပြစ်မမြင်ဘဲ ချစ်ခင်ပိုင်ဆိုင်လိုဆဲပါပဲ ဆရာရယ်။

ခံစားနေရသူ

ပန်းမျိုးတစ်ရာစာပေ

**မေး** ။ ။ ဖြစ်မှဖြစ်ရလေသမီးရယ်...။

သမီးစာဖတ်ပြီး ဦးရဲ့ ငယ်ငယ်က ကွဲခဲ့ရလို့ ပြန်ဆက်ထားခဲ့ရတဲ့ အသည်းတောင် အက်တက်တက်ပြန်ဖြစ်လာရပါတယ်။ တစ်ဖက်သတ်အချစ်ဟာ ဆိုးသလို အသည်းကွဲတာကလည်း ခံစားရခက်တဲ့ အရာဆိုတာ ဦး သိပါတယ်။ ဒေါက်တာမိုက်ကယ်လိုင်ဘိုဝစ်က သူ့ရဲ့စာအုပ်ထဲမှာ "မေတ္တာသက်ဝင် ချစ်ခင်တာဟာ မူးယစ်ဆေးဝါးစွဲသလိုပဲ"လို့ ဆိုပါတယ်။ အဲ...အခုလို မေတ္တာခန်းခြောက်လို့ အသည်းတွေ ကွဲအက်ကြရပြီဆိုရင်လည်း မူးယစ်ဆေးဝါးလိုပဲ ဆေးပြတ်ဆေးဖြတ်တဲ့ဝေဒနာတွေ ဆယ်ဆယ်ခံစားရတတ်တယ်လို့ ဆိုပါတယ်။

အချစ်စစ် အချစ်မှန်နဲ့ အရူးအမူးအချစ်တို့ဟာ ပြဒါးတစ်လမ်း သံတစ်လမ်း ဆိုကြပေမယ့် ခံစားရတဲ့အခါမှာတော့ နှစ်မျိုးစလုံးဟာ ရူးသွပ်စေလောက်အောင် ပျော်မြူးကြည်နူးကြရတာမျိုးပါပဲ။ ဒီတော့ မချစ်ကြလို့ ပစ်ခွာကြရပြီဆိုလည်း ချစ်တတ်တဲ့နှလုံးသားတွေအဖို့ ရင်ကွဲနာကျရတာဟာ ဓမ္မတာပါပဲ။

**အချစ်ဆိုတာက မိမိသံယောဇဉ် ကြီးကြီးမားမားထားမိလေ အခုလို မလွှဲသာလို့ ခွဲခွာကြရတဲ့အခါ ခံစားရမှု ဒဏ်ရာဒဏ်ချက်က ကြီးမားလေပါပဲ။ တရားသည်ဖြစ်စေ၊ မတရားသည်ဖြစ်စေ၊ မေတ္တာထားတတ်သူတို့ရဲ့ ပေးဆပ်ရတဲ့ အဖိုးအခက ကြီးမားလှပါတယ်။** အပစ်ပယ်ခံဘဝ ရှင်သန်ဖို့ ကြိုးစားရတဲ့အဖြစ်ကလည်း နာကြည်းစရာဖြစ်တတ်ပါတယ်။ မိန်းကလေးတစ်ယောက်ဆိုရင် တစ်ကြိမ် အသည်းခွဲခံရလို့ ယောကျ်ားဆိုရင် "နေကောင်းရဲ့လားရှင်လို့" နှုတ်ဆက်ဖို့တောင် ရွံ့ရှာခဲ့ပါတယ်လို့ပြောတာ ကြားဖူးပါတယ်။

ကဲ...ပြဿနာကို ဖြည်းဖြည်းဆေးဆေး စဉ်းစားကြရအောင်ပါ။

ဗိုက်တစ်ခါနှစ်ခါကြီးပြီး ကလေးတစ်ယောက် နှစ်ယောက်ရပြီးမှ ခွဲကြတာထက် အခုလောက်တည်းက သူ့ဇာတိရုပ်ကိုသိပြီး ခွဲရတာ သမီးအတွက် အများကြီး သက်သာမှုရှိပါတယ်။ ဒါ့ပြင် ချစ်သူနှစ်ဦး ကြည်နူးမှုအရင်းခံ စိတ်ရင်းစေတနာမှန်တွေနဲ့ ချစ်ခဲ့ပေမယ့် နှစ်ဖက်စလုံးက လက်ထပ်ဖို့ မသင့်ဘူးလို့ ဆုံးဖြတ်ပါက အဲဒီ ဆုံးဖြတ်တဲ့အရာကို မတရားပြုကျင့်ရာကျတယ်လို့လည်း- တပ်အပ်ကြီးတော့ မဆိုသာဘူး သမီးရေ။

ဒါပေမယ့် အလိမ္မာဆုံး၊ အကြင်နာဆုံး နည်းများနဲ့ ဖြေလက်တွဲ ဖြုတ်ကြရတဲ့တိုင် ခွဲရပြီဆိုရမှတော့ ကျွန်မအသည်းကွဲကြေရအောင် ခံစားနေရပါပြီဆိုရင် ဒီကိစ္စကို ဦးမငြင်းပါဘူး။ ဒါပေမယ့် ရည်းစား ၁၀ အကြောင်းမညီညွတ်လို့ ခွဲကြခွာကြတာဟာ သိက္ခာကျတာလို့တော့ မဆိုသာပါဘူး။ ဒီလိုပဲ သူနဲ့ခွဲရတဲ့အတွက် ယောကျ်ားဆို နေကောင်းရဲ့လားလို့တောင် မနှုတ်ဆက်နိုင်လောက်အောင် နာကြည်းမှုတွေလည်း မဖြစ်သင့်ပါဘူး။

ပျက်သုဉ်းခဲ့ရတဲ့အချစ်ကို ခေါင်းအေးအေးထားပြီး သမီး လက်ခံလိုက်ပါ။ တစ်ခါတလေ ကြေကွဲရတဲ့အကြောင်းရင်းဟာ ချစ်လွန်းလို့မဟုတ်ဘဲ မာနတရားကို ထိခိုက်ခံရလို့လည်း ဖြစ်တတ်တယ်။ ဒါ့အပြင် အကောင်းဘက်က စဉ်းစားရင်တော့ သူ့ရဲ့ မရင့်ကျက်မှု၊ သူ့ရဲ့ စိတ်အပြောင်းအလဲ၊ သစ္စာတရားကင်းမဲ့မှု၊ စာနာစိတ်ကင်းမှု၊ မင်းသားခေါင်းဆောင်းထားမှုတွေ၊ သူ့ရဲ့ နှစ်မြို့စရာသဘောထားတွေကို သမီး စောစောစီးစီး သိလိုက်ရတာလို့ပဲ တစ်ဖက်သတ်တွေးလိုက်စမ်းပါ သမီးရယ်။

ပန်းမျိုးတစ်ရာစာပေ

ခင်ပွန်းတစ်ယောက်မဖြစ်နိုင်တဲ့သူကို သူ့အကြောင်း စောစော သိရလို့ လမ်းခွဲလျှောက်ရတယ်ဆိုလည်း အဲဒီလမ်းသစ်မှာ ပန်းပေါက် ပေါက်တွေကြဲပြီး ပျော်ပျော်ကြီး လျှောက်ကြည့်ပါ။ သူနဲ့ လမ်းခွဲခဲ့ရလို့ လက်တွဲစရာ နောက်တစ်ယောက် မတွေ့တော့ဘူးဆိုတာလည်း မဟုတ် ဘူး။ ခွဲခဲ့ရတဲ့လမ်းဟာ သမီးရဲ့ကံတရားကြောင့် ပိုချစ်တတ်တဲ့ တစ်ယောက်နဲ့ ဆုံစည်းဖို့ဆိုရင် ကံတရားကိုပဲ ကျေးဇူးတင်စရာ မကောင်းဘူးလား သမီးရယ်။

ရက်စက်သူကို စိတ်လည်းမနာပါနဲ့။ အာဃာတလည်း မထားပါ နဲ့။ အငြိုးလည်းမရှိစေချင်ဘူး။ သူ့ရဲ့ ကောက်ကျစ်စဉ်းလဲမှုသဘောကို အများမသိတောင် သူ့ကိုယ်စောင့်နတ်က သိနေတာမို့ ရက်စက်သူ အတွက် သူ့တရားရုံးမှာ သူ့ဟာသူ တရားစီရင်ခံရမှာပါ။ အချစ် ဆိုတာကတော့ ခက်သားပဲ။ ချင်းစိမ်းနဲ့မိဿလင် သူကြင်မှ ကိုယ် ကြင်မှာပေါ့လို့ စိတ်မထားနိုင်တဲ့အခါတွေလည်း ရှိပါတယ်။ အဲဒီလို အခါမျိုးမှာ ချုံးပွဲချပြီး ငိုပစ်လိုက်ပါ။ အလုပ်တစ်ခုခုကို ဆက်တိုက် လုပ်နေပါ။ ကိုယ်လက်လှုပ်ရှားမှု အားကစားတစ်ရပ်ရပ်ကို လုပ်နေရင် အရှုံးထဲက အမြတ်ဆိုသလို ပိုကျန်းမာလာ၊ ပိုလှလာပြီး ယောကျာ်း သားတွေ ဝိုင်းဝိုင်းလည်လာလို့ ခါချရတတ်တာမျိုးလည်း ဖြစ်တတ်ပါ တယ်။

ဝမ်းနည်းစရာချည်း မတွေးဘဲ ရွှင်လန်းစရာများနဲ့ အတူနေပါ။ ရွှင်လန်းစရာတွေကို တည်ဆောက်ပါ။ မိဘများနဲ့ ပိုရင်းနှီးအောင် နေပြီး ဘုရားသွားကျောင်းသွား မိဘများနဲ့ အတူလိုက်ပါ။ တူလေးတွေ မောင်လေးတွေရှိရင် သူတို့ကို စာသင်ပေးပါ။ မိမိအသည်းကွဲရက်

အကြောင်းကို စဉ်းစားပြီး မိမိရဲ့စရိုက်အချို့ကို ပြုပြင်ပါ။ အချစ်တစ်ပွဲ ရှုံးရသည်ကို အရှိအတိုင်းလက်ခံပါ။ နောက်တစ်ပွဲ အရှုံးမခံပါနဲ့။ တကယ့်မေတ္တာစစ်နဲ့ ချစ်လာမယ့်သူတစ်ယောက်ဟာ သမီးထင်သလောက် မရှားဘူးဆိုတာ သိလာမှာပါ။

မိမိရှုံးခဲ့ရသော အချစ်စစ်ပွဲတွင် မိမိပယောဂများလည်း မကင်းကြောင်း၊ မိမိမှာလည်း တာဝန်ရှိကြောင်း သိပါ။ သမီးဟာ သူ့ကို ဆင်ကန်းတောတိုး ချစ်မိခဲ့တယ်မဟုတ်လား။

အချစ်မှာ ဆင်ကန်းတောတိုး မလုပ်ကောင်းဘူး။ သမီး အချစ်ရေစီးချောင်းထဲကို အလောသုံးဆယ် ခုန်ဆင်းခဲ့တယ်မဟုတ်လား။

မေတ္တာစစ် မေတ္တာမှန်ဆိုတာက ညတွင်းချင်း ပေါက်ဖွားလာတာမျိုး မဟုတ်ဘူး။ နောက်ပြီး သမီး သူ့ကို ရုပ်ရည်လေးသက်သက်ကြည့်ပြီး သူ့အချစ်ကို လက်ခံလိုက်တုန်းက မင်းသားတစ်ပါးရဲ့အချစ်ကို လက်ခံရတာပဲလို့ ထင်ခဲ့တယ်မဟုတ်လား။

ထားပါတော့...။ ပြီးတာတွေ ပြီးပြီပဲ။

သမီး အသည်းကွဲခဲ့ပြီးပြီပဲ။ ဒါကို လက်ခံလိုက်ပါ။ သမီး တည်ငြိမ်အောင် ပြန်ကြိုးစား။ သူ့အကြောင်းကို မတွေးပါနဲ့။ ဗီဒီယိုထဲက စာအုပ်ထဲက ဇာတ်လမ်းတွေကိုလည်း စိတ်ကူးမယဉ်ပါနဲ့။ အချိန်ဟာ သမီးကို ကုစားပေးပါမယ်။ ဒါပေမယ့် အသည်းကို နှစ်ကြိမ်အကွဲမခံပါနဲ့။

အဲဒီကိစ္စကို မေ့ပစ်လိုက်ပါ။

မေ့ပစ်ရုံသာမက ဘယ်တော့မှလည်း ပြန်သတိမရစေပါနဲ့။ သတိရရင်လည်း လမ်းပေါ်က ရေခဲချောင်းတစ်ချောင်း ဝယ်စားဖူး

သလောက်ပဲ သဘောထားလိုက်ပါ။ အသည်းဆိုတာက နှလုံးနဲ့ မတူဘူး။ အသည်းကို လှီးထုတ်ရင် အသည်းက အလိုလို ပြန်ပြည့်လာတာပါ။ သမီးအသည်းကွဲတာ ကံကောင်းတယ်။ နှလုံးမကွဲပါစေနဲ့။

◆

## မဖြစ်ကောင်းတဲ့အရာ

ဘဝဆိုတဲ့အရာက ဒီလိုပဲ ကွေ့သောလမ်း၊ ကောက်သောလမ်း၊ မဖြောင့်ဖြူးသောလမ်းအသွယ်သွယ်မှာ အဆင်သင့်သလို လျှောက်ကြရတာ ဘဝပဲ။ ဒီတော့ လူရယ်လို့ ဖြစ်လာပြီးမှတော့ မိဘနှစ်ပါး ကွာရှင်းပြတ်စဲကြရုံမျှနဲ့ ဆိုးတေတဲ့လမ်းကို လိုက်မယ်ဆိုတာဟာ မဖြစ်ကောင်းတဲ့အရာပဲ။

ပန်းမျိုးတစ်ရာစာပေ

## အခန်း (၅)

# အမေနဲ့အဖေ ကွာရှင်းကြတော့မယ်တဲ့။ ကျွန်တော့်ဘဝ ပျက်သုဉ်းရတော့မှာလား

**မေး** ။ ။ အမေနဲ့အဖေဟာ ဘယ်လိုမှ စေ့စပ်လို့ မရနိုင်တော့ပါဘူး။ အဖေက အရက်သောက်တယ်။ အရက်ကို စွဲနေပြီ အမေ့ကို ပစ်ရင်ပစ်မယ်၊ အရက်ကိုတော့ ဖြတ်မယ့်ပုံမရှိတော့ဘူး။ အမေကလည်း ပညာမာနတွေ၊ ဆွေမျိုးဂုဏ်တွေ ဖော်ထုတ်ပြီး အဖေ့ကို အချိုးချိုး နှိမ့်ချပြီးပြောတယ်။ အမေနဲ့အဖေဟာ တစ်ယောက်ကိုတစ်ယောက် ဘယ်လိုမုန်းကြမှန်းမသိဘူး။ ဒီလောက်မုန်းဖို့ရာ ဖြစ်လာတဲ့အကြောင်းတွေ ကိုလည်း ကျွန်တော်တို့မောင်နှမ မသိနိုင်ကြပါဘူး။ ကျွန်တော်တို့ ဘာလုပ် ကြရပါမလဲ။

မောင်သိန်းမြင့်ဦး—ဓနုသေး

**ဖြေ** ။ ။ ကြားရတာ စိတ်မကောင်းစရာပါပဲ။ မေးခွန်းကို ဖတ်မိရုံ နဲ့ သားတို့မောင်နှမရဲ့ခံစားမှုတွေကို ရင်နှင့်စွာနဲ့ သဘော ပေါက် ရပါတယ်။ တကယ်တော့ မိဘနှစ်ပါး ကွာရှင်းပြတ်စဲကြ

လို့ သားသမီးတွေ ခံစားရတဲ့ဝေဒနာဟာ ကမ္ဘာပျက်ကပ်ကြီးဆိုက်လာသည့်အလား ပူဆွေးသောက စိုးရိမ်ကြောင့်ကျမှုတွေ ခံစားလာရတတ်တယ်ဆိုတာ ဦးတို့ သဘောပေါက်ပါတယ်။ မိဘနှစ်ပါးက အခုလို ကွဲကြ၊ ကွာကြ၊ ပြတ်ရှင်းကြတဲ့ သဘောသဘာဝရှိပါတယ်။ မိသားစုတစ်ခုမှာ မိသားစုဝင်အားလုံးဟာ သွေးသားတော်စပ်တဲ့လူတွေချည်း။ သားနဲ့အမေနဲ့က သားအမိ၊ သမီးနဲ့အဖေနဲ့က သားအဖ၊ သားနဲ့သားရဲ့ညီမလေးတို့က မောင်နဲ့နှမ သွေးတော်စပ်ကြတယ်။ သားနဲ့အဖေက သားအဖ စသည်ဖြင့် သွေးသားတော်စပ်ကြပေမယ့် မိသားစုထဲမှာ သွေးမတော်စပ်ကြတာကတော့ သားတို့အမေနဲ့ အဖေပဲ။ အမေနဲ့အဖေက မိသားစုတစ်စုစီက လာကြတာ။ သူတို့က ဘာမှ သွေးသားမတော်စပ်ကြတော့ ရန်ဖြစ်တာ၊ ကွာရှင်းတာ၊ ပြဿနာတက်တာတွေ ရှိနိုင်တာပေါ့။ မိဘနှစ်ပါး ကွာရှင်းကြပြီ၊ ပြဿနာပေါ်ကြပြီဆိုရင် သားသမီးတွေဟာ အရှက်တကွဲအကျိုးနည်းဖြစ်ရ၊ အပယ်ခံဖြစ်ရ၊ သောကရောက်ရ၊ စိတ်ဓာတ်ကျရ၊ အနှစ်နာခံရနဲ့ မဆုံးနိုင်တဲ့ ဆုံးရှုံးမှုတွေကို သားသမီးများ ရင်ဆိုင်ကြရတာပါပဲ။ မိဘနှစ်ပါး သင့်နားမှာရှိသင့်ပါလျက် မရှိတာလောက် ဆုံးရှုံးရတာဟာ ဒီထက်ကြီးမားတဲ့ဆုံးရှုံးတာ ဘာရှိဦးမှာလဲ။

မိဘတွေ ကွဲကွာကြရ ပြတ်ရှင်းကြရတဲ့ အကြောင်းရင်းတွေကတော့အများကြီးပါပဲ။ သားသမီးတွေ လက်လှမ်းမမီနိုင်လောက်အောင်လည်း များပြားနိုင်ပါတယ်။ ဒါတွေကတော့ တစ်ဖက်သတ်နိုင်လို့၊ ကိုယ့်မိဘ ဆွေမျိုးတွေဘက် ပေးတာများလို့၊ တစ်နည်းလျော်အောင်မဖြန့်ချိလို့၊ တစ်ဦးဦးက ဖောက်ပြားလို့၊ မာနကြီးလို့၊ အမျက်ထွက်လို့၊ ဟစ်အော် ဆဲရေးတိုင်းထွာပြုလို့၊ ကိုယ်ထိလက်ရောက်ပြုမှုလို့ စတဲ့

အကြောင်းတွေပေါ့။ အချို့ လင်မယားကွာရှင်းမှုတွေကျတော့လည်း ဘာမှ မယ်မယ်ရရမရှိတာတွေကို တွေ့ရပါတယ်။ မပျော်လို့၊ မေတ္တာ ခန်းခြောက်လို့ဆိုပြီး ကွာရှင်းကြတာတွေတောင် ရှိပါတယ်။ ဇနီး မယားက နားပူနားဆာလုပ်လို့ ကွာရှင်းကြတာတွေလည်း ရှိပါတယ်။ မိဘတွေကတော့ ကွာရှင်းကြပြီ။ ကဲ...သူတို့အကြောင်းနဲ့ သူတို့ ကွဲကြမှတော့ အဲဒီအကြောင်းတွေ လျှောက်ပြောနေလို့ ဆုံးမှာမဟုတ် တော့မယ့် အတူတူ မိဘတွေ ကွဲကြ ကွာကြရင် သားသမီးတွေ ဘယ်လိုရပ်တည်ကြမလဲဆိုတာကို ဆွေးနွေးတာက ပိုပြီး လက်တွေ့ ကျမယ်လို့ ထင်ပါတယ်။

**တစ်ခုမှတ်သားကြဖို့ကတော့ ဘယ်မိဘပဲဖြစ်ဖြစ် အမေနဲ့အဖေ ဟာ သူတို့ သားသမီးတွေကို ဘယ်တော့မှ အချစ်မပြယ်ကြဘူး။ မိဘဟာ မိဘပဲ ဆိုတဲ့အချက်ကိုတော့ သားတို့သမီးတို့ သဘောပေါက် ကြရပါမယ်။**

မိဘတွေ ကွဲကြပြီဆိုရင် သားသမီးတွေ ဖြစ်တတ်ကြတာက အထက်ကပြောသလို စိတ်ညစ်မယ်၊ ရှက်မယ်၊ စိတ်ဓာတ်ကျမယ်၊ သောကရောက်မယ်၊ တွေဝေမယ်။ အဲဒီကနေတစ်ဆင့် အိမ်က ထွက် ပြေးချင်မယ်၊ ကျောင်းထွက်လိုက်မယ်၊ ဒေါသထွက်ပြီး တွေ့တဲ့လူကို ရန်လိုမယ်၊ ဒေါသပေါက်ကွဲမယ်၊ ကလဲ့စားချေလိုစိတ်တွေပေါ်မယ်၊ အရက်သောက်မိမယ်၊ ဆေးရူးမိမယ်။ ဒါတွေဟာ အားလုံး အမှားတွေ ချည်းပဲ။ မိဘတွေဟာ သူတို့အကြောင်းကြောင့် သူတို့ ဖြစ်ကြရသော် လည်း သူတို့ဟာ သားသမီးတွေကို ရက်စက်ကြသူများ မဟုတ်ဘူး ဆိုတာ သားတို့ ကြပ်ကြပ်မှတ်သားထားစေလိုပါတယ်။ အကြောင်း မညီညွတ်၍ အမိနဲ့အဖဟာ သူတို့ပြဿနာနဲ့သူတို့ ကွဲကြ ခွဲကြရသော်

လည်း သူတို့နှလုံးသားများက သားသမီးများနှင့်ပတ်သက်လျှင် ကွဲအက်မတတ် ခံစားနေကြရသူများချည်း ဖြစ်တယ်ဆိုတာ သားတို့ သမီးတို့ ယုံကြည်ပါ၊ နားလည်ပါ။

ဘဝဆိုတာ ဒီလိုပါပဲ။ ကွေ့သောလမ်း၊ ကောက်သောလမ်း၊ မဖြောင့်ဖြူးသော လမ်းအသွယ်သွယ်မှာ အဆင်သင့်သလို လျှောက်ကြရတာ ဘဝပဲ။ ဒီတော့ လူရယ်လို့ ဖြစ်လာပြီးမှတော့ မိဘနှစ်ပါး ကွာရှင်းပြတ်စဲကြရုံမျှနဲ့ ဆိုးတေတဲ့လမ်းကို လိုက်မယ်ဆိုတာကတော့ မဖြစ်ကောင်းတဲ့အရာပါ။

မိဘများဟာ သူတို့မကွာရှင်းမီက မိမိတို့အိမ်ထောင်ကို သာယာအောင် သူတို့ ကြိုးစားခဲ့ကြသေးတယ်ဆိုတာ သားတို့အသိပဲမဟုတ်လား။ မိဘများဟာ သားတို့ကို ကျွေးမွေးသုတ်သင်ပေးခဲ့တယ်။ ပညာပေးခဲ့တယ်။ လီမ္မာအောင် ဆိုဆုံးမခဲ့ကြတယ်မဟုတ်ပါလား။ ဒါကြောင့် မိဘနှစ်ပါး ကွဲသွားကြပေမယ့် မိဘမေတ္တာဆိုတာ ကုန်ဆုံးသွားကြတာမဟုတ်ဘူး။ သူတို့အကြောင်းနဲ့သူတို့ ကွာကြရှင်းကြ ပြတ်စဲကြပေမယ့် မိဘများဟာ ဘယ်သားသမီးကိုမှ ရက်စက်ကြသူများ မဟုတ်ဘူးဆိုတာ ယုံပါ ကလေးရယ်။

မိဘနှစ်ပါး ကွဲကွာခြင်းနဲ့ပတ်သက်ပြီး ပုဂ္ဂိုလ်တစ်ဦးက "သင့်မိဘများ ကွာရှင်းမှုသည် သင့်ဘဝတွင် အမှတ်ထင်ထင် ကျန်ရစ်မှာ မလွဲပါ။ သို့သော် ထိုအမှတ်သည် တဖြည်းဖြည်း မှေးမှိန်သွားသည့် အနာရွတ်ဖြစ်မည်လော သို့မဟုတ် ပြည်တည်နာဖြစ်စေမည်လောဆိုသည့်ကိစ္စသည် သင့်အပေါ်တွင် များစွာတည်ပေသည်" လို့ ပြောပါတယ်။ ဒါကြောင့် သင်ဟာ မိဘများ ကွာရှင်းပြတ်စဲမှုကို ကြုံတွေ့ရ

ပြီဟုဆိုပါက တဖြည်းဖြည်း မှေးမှိန်ပျောက်ကွယ်သွားအောင်၊ အမာရွတ်ဖြစ်အောင် ကြိုးစားပါ။ ပြည်တည်နာမဖြစ်စေဖို့ သားတို့ သမီးတို့ဟာ ဒီကိစ္စမျိုးနဲ့ မလွဲမသွေ ကြုံလာရင် တည်ငြိမ်စွာရင်ဆိုင်ပါ။ စိတ်မလှုပ်ရှားပါနဲ့။ စိတ်မလှုပ်ရှားပါနဲ့လို့ ပြောရပေမယ့် ဒီကိစ္စက အပြောလွယ်သလောက် အလုပ်ခက်တာကို သိပါတယ်။ ဒါပေမယ့် တခြားနည်းလမ်းကလည်း ရွေးချယ်စရာ အလွန်နည်းလို့ ခုလို အကြံပေးရတာပါ။ ဘဝမှာ အရေးကြုံလျှင် သက်လုံကောင်းဖို့လိုပါတယ်။

ပထမမှာတော့ မိဘတွေ မကွဲကြ မကွာကြရအောင် သားတို့က အရွယ်ရောက်ပြီးဖြစ်ပါက ဝင်ရောက်စေ့စပ်ရပါမယ်။ မိဘများ ကွာရှင်းမှုမရှိတော့ပါ။ ဒါပေမယ်လို့ စေ့စပ်ဖို့မဖြစ်နိုင်ပါက အလွန်အမင်း မပူဆွေးပါနှင့်။ ဖြစ်လာရသည့်ဘဝကို လက်ခံဖို့ ကြိုးစားပါလို့ အကြံပြုလိုပါတယ်။ ဝေါလ်စတိန်းနှင့် ကယ်ကီတို့ဟာ ကွာရှင်းတဲ့ အိမ်ထောင်ပေါင်း ၆၀ ကို လေ့လာရာမှာ သူတို့အချင်းချင်းသာ အကြောင်းမျိုးစုံပြပြီး အပြစ်တင်ကြမယ်။ စိတ်ဝင်စားစရာကောင်းတာကတော့ ဘယ်မိဘကမှ သားသမီးများကို အပြစ်မတင်ကြဘူးလို့ ဆိုပါတယ်။

အနာသိလျှင် ဆေးရှိစမြဲဖြစ်ပါတယ်။ တစ်ခါတစ်ရံ အချိန်က အလိုအလျောက် ကုစားတတ်ကြပါတယ်။ မိဘများ ပြတ်စဲကွာရှင်းကြလျှင် ထိုအိမ်ထောင်သည် ဖရိုဖရဲဖြစ်လာရစမြဲပါပဲ။ အဲဒီ ဖရိုဖရဲဖြစ်ရမှုကို စနစ်တကျ ပြန်လည်ဖွဲ့စည်းဖို့လိုတယ်။ တစ်ခါတစ်ရံ မိဘများ ကွာရှင်းမှုဟာ သုံးနှစ်အတွင်း လွန်မြောက်ပြီးစီးသွားတတ်ကြတယ်လို့လည်း ဆိုပါတယ်။ ဒါပေမယ့် သားတို့ သမီးတို့ဟာ မိဘများ

ကွာရှင်းမှုကြောင့် ငါတို့ဘဝ မပျက်စီးစေရဘူး ဆိုတဲ့စိတ်ကိုတော့ ခိုင်ခိုင်မာမာထားဖို့လိုပါတယ်။ မိမိစိတ်ဓာတ်ကြံ့ခိုင်ဖို့ဟာ အရေးအကြီးဆုံးဖြစ်ပါတယ်။ မိဘများ ကွာရှင်းပြတ်စဲမှုအတွက် မျက်ရည်ခန်းအောင်ပဲငိုငို၊ မပျက်စီးအောင် နေကြရပါမယ်။ မိဘများ ကွာရှင်းရုံမျှနှင့် လူငယ်တို့၏ဘဝဟာ မသီးနိုင်၊ မပွင့်နိုင်ဟူသောသဘော မရှိပါ။ မိဘမဲ့ကလေး အများအပြားဟာ ကမ္ဘာ့သမိုင်း၊ လူ့သမိုင်းရဲ့ အထွတ်အထိပ်မှာ ရှိခဲ့ကြပါတယ်။

သားတို့ သမီးတို့ဟာ မိဘများကွာရှင်းမှုကို ရင်ဆိုင်ရန် သည်းခံမှု၊ ဇွဲလုံ့လနှင့်အချိန် လိုပါတယ်။ ကြေကွဲဝမ်းနည်းနေမည့်အစား ဘဝခရီးကို ရဲရဲဝံ့ဝံ့ ရင်ဆိုင်ပါ။ ကျောင်းစာကို ပိုကြိုးစားပါ။ စာရိတ္တကို ပိုကြံ့ခိုင်အောင်လုပ်ပါ။ မိမိဘဝသည် မိဘများဘဝလို မဖြစ်စေရဟု သန္နိဋ္ဌာန်ချပါ။ ဝါသနာပါရာ လုပ်ငန်းတစ်ခုခုကို ထူးချွန်အောင် ဝင်ရောက်လုပ်ကိုင်ပါ။ အချိန်မဖြုန်းပါနဲ့။ ဘဝဆိုတာ သင့်မိဘများက မွေးခဲ့ပြီးပြီပဲ။ သင့်ဘဝတိုးတက်မှုအတွက် သင့်ခြေထောက်ပေါ် သင်ရပ်ပါ။ လူ့သမိုင်းမှာ မိဘများ ကွာရှင်းကြတဲ့ အိမ်ထောင်များစွာမှ လူတော်လူကောင်း အဖိုးတန် လူ့ထိပ်သီး အများအပြားပေါ်ထွက်ခဲ့ပြီး ဖြစ်ပါတယ်။ မိဘများ ကွာရှင်းကြသည့် မိသားစုများ၏ သားသမီးများဟာ အထွတ်အထိပ်ကိုရောက်မလား၊ မြောင်းထဲပဲ ရောက်မလား ဆိုသည့်ကိစ္စဟာ မိဘများပေါ်တွင် သိပ်မူမတည်တော့ပါဘူး။ မိဘများ ကွာရှင်းသည့်ကိစ္စအပေါ် သားသမီးတို့က ဘယ်လောက် မှန်မှန်ကန်ကန် ရပ်တည်နိုင်တယ်ဆိုတဲ့အချက်၊ သားသမီးများက ဘယ်လောက် ရင့်ကျက်နိုင်သည်ဆိုသည့်အချက်များပေါ်မှာ များစွာတည်ရှိနေတဲ့အတွက် ပြဿနာကတော့ ဖြစ်ခဲ့ပြီ။ တဖြည်းဖြည်း မှေးမှိန်

ပျောက်သွားတဲ့ အနာရွတ်ဖြစ်အောင် သားတို့က ကြိုးစားပါ။ ရိုးတွင်းခြင်ဆီအထိ လိုက်စားမည့် ပြည်တည်နာ မဖြစ်စေပါနဲ့။ မုန်တိုင်းကျလာမှတော့ မုန်တိုင်းကို တားလို့မရရင် မုန်တိုင်းထဲမှာ သင့်ကိုယ်သင် ကြံ့ခိုင်အောင်ကြိုးစားပါ။ အမှားများများမလုပ်မိပါစေနှင့်။ မုန်တိုင်းသည် အမြဲမတိုက်ခတ်နိုင်ပါ။ မုန်တိုင်းတိုက်ခတ်နေစဉ် သင် လွင့်စဉ်မပါသွားဖို့ အလွန်အရေးကြီးပါတယ်။

လောကမှာ ပျောက်ဆုံးရသောအရာတွေ၊ လက်လွှတ်ခံရတာတွေ၊ ဆုံးရှုံးတာတွေဆိုတာ ရှိတတ်စမြဲပါပဲ။ ဒါတွေကို သားတို့ သမီးတို့လက်ခံဖို့လိုပါတယ်။ မိဘများ ကွာရှင်းပြတ်စဲတဲ့အခါ အရေးအကြီးဆုံးက စိတ်ဓာတ်ဆိုင်ရာ အကြီးအကျယ် ဖရိုဖရဲမဖြစ်သွားဖို့မှာ အရေးအကြီးဆုံးပါပဲ။ မိဘများ ကွာရှင်းပြတ်စဲကြလို့ သားသမီးလုပ်သူတွေ ဖရိုဖရဲဖြစ်ပြီဆိုရင်တော့ ဆုံးရှုံးမှု များတတ်ပါတယ်။

နောက်ပြီးတော့ ငါ့ဘဝကို ဖရိုဖရဲဖြစ်အောင် ကစဉ့်ကလျားဖြစ်အောင်လုပ်တာပဲဆိုပြီးတော့လည်း မိဘများအပေါ်မှာ စိတ်မဆိုးနဲ့။ လူငယ်တစ်ဦးက ကွာရှင်းပြတ်စဲကြတဲ့ သူ့မိဘများနဲ့ ပတ်သက်ပြီး "ကျွန်တော့်အမေရော အဖေရောဟာ တစ်ကိုယ်ကောင်းဆန်လွန်းတယ်။ ကျွန်တော်တို့ရဲ့ ဘဝအခြေအနေကို မကြည့်ဘူး။ သူတို့လုပ်ချင်တာတွေကိုပဲ တစ်ဇွတ်ထိုးလုပ်ကြတယ်။ ကျွန်တော်တို့သားသမီးတွေ ဘယ်ဘဝရောက်ကုန်မယ်၊ ဘယ်လိုခံစားရမယ်၊ ဘယ်လိုနေရမယ်ဆိုတာကိုလည်း မစဉ်းစားကြဘူး။ သူတို့ကြံရွယ်ထားကြတာတွေကို တစ်ဇွတ်ထိုးလုပ်ကြတယ်"လို့ ဆိုဖူးပါတယ်။ ထိုကဲ့သို့ နာကြည်းမှုရှိပါက ထိုနာကြည်းမှုသည် မိမိဘဝတွင် ဝန်ထုပ်ဝန်ပိုးကြီးလို ဖြစ်နေတတ်ပါတယ်။ ဘဝတွင် ဝန်ထုပ်ဝန်ပိုး ဖြစ်နေသမျှတော့ အဲဒီဒုက္ခကို

ကိုယ်ပဲခံရတာတ်တာပါပဲ။ ဒီတော့ ဒီလိုအတွေးမျိုး၊ ခံစားချက်မျိုးကို လည်း မထားပါနဲ့တော့။

သားသမီးများအနေနဲ့ ခံစားချက်ကို သိမ်းဆည်းပြီး အဖေနှင့်ရော အမေနှင့်ပါ အဆင်ပြေအောင်နေပါ။ သူတို့ဟာ ကွာရှင်းကြမယ်။ ကွာရှင်းမှုပုံစံအမျိုးမျိုးကိုလည်း သူတို့ လုပ်ကြလိမ့်မယ်။ ဒါပေမယ့် အဲဒီကွာရှင်းမှုပုံစံအမျိုးမျိုးမှာ သားတို့ သမီးတို့အတွက် သက်သာခွင့် ရရာရကြောင်းကိစ္စတွေကို နှစ်ဖက်စလုံးက အမြဲထည့်တွက်တတ်ကြ တယ်ဆိုတာကိုလည်း သတိထားပါ။ ထိုသက်သာမှုတွေကို ရှာပါ။ ထိုအရာကို အမိအရဆုပ်ကိုင်ပြီး ကြံ့ခိုင်မှုရှိရှိနဲ့ မိမိဘဝခရီးကို မိမိ ခိုင်မြဲစွာလျှောက်လှမ်းပါ။

တစ်ခါတစ်ရံတော့လည်း မိမိရဲ့ခံစားချက်များကို တစ်ဦးတစ် ယောက်ထံတွင် ရင်ဖွင့်လိုက်ပါ။ လူတိုင်းကိုတော့ ရင်မဖွင့်ပါနှင့်။ မိမိအား လိုလားသူများရှိသလို မလိုလားသူများလည်း ရှိပါတယ်။ အကောင်းဆုံး မိမိရင်ဖွင့်ရမယ့်သူများဟာ ငယ်ဆရာများ၊ ငယ်ငယ်က သူငယ်ချင်းများနှင့် သင့်မိဘများဖြစ်ရာ ကိုယ်တိုင်ရင်ဖွင့်ပါ။ သားတို့ရဲ့ စိုးရိမ်မှုတွေ သောကစိတ်တွေကို မိဘများကို ထုတ်ဖော်ပြောပါ။

သားတို့ သမီးတို့ထံတွင် အမြဲစွဲမြဲစွာခံယူထားရမည့်အချက်က မိဘများ ကွာရှင်းရုံမျှနှင့် သားသမီးများသည် မသိနိုင် မပွင့်နိုင်တော့ပြီ ဆိုတာ မဟုတ်ပါ။ တိမ်တိုက်တိုင်းတွင် ငွေရောင်ဖြင့် အနားသတ်မှု မျိုးရှိပါတယ်။ မိမိဘဝအပေါ်မိမိ ကြံ့ခိုင်သလောက် မိမိဘဝမှာမိမိ မားမားရပ်နိုင်မည်ဆိုသောအချက်ကို သတိထားပါ။

မိဘများ ပြတ်စဲရပြီဟုဆိုရင် ပထမဆုံးလုပ်ရမည့်အလုပ်မှာ မိမိ ဘယ်လိုရပ်တည်ရမလဲဆိုတာ ရွေးချယ်ပါ။ အဖေနဲ့ပဲ လိုက်နေရ

နေရ၊ အမေနဲ့ပဲလိုက်နေရနေရ ဘဝစီမံသည့်အတိုင်း လိုက်နေပါ။ မိမိ အသက်သာဆုံးရပ်တည်ရမယ့်အခြေအနေတစ်ရပ်ကို ရွေးချယ်ပါ။ အဘိုးအဘွားများ၊ အဒေါ်များထံ သွားရောက်နေထိုင်ရသော အခြေအနေမျိုးလည်း ရှိကောင်းရှိနိုင်ပါသည်။ ထိုအခြေအနေဖြစ်ရင်လည်း လက်ခံလိုက်ပါ။ တစ်ဖန် မိဘမဲ့ဂေဟာ၊ သို့မဟုတ် ပရဟိတဂေဟာများတွင် သွားရောက်နေထိုင်ရမည်ဟုဆိုလျှင်လည်း မိမိဘဝကို မိမိလက်ခံလိုက်ပါ။ ဒီနေ့ မြန်မာနိုင်ငံတွင် ထင်ရှားကျော်ကြားသူတစ်ဦးဖြစ်သည့် ဇေကမ္ဘာ ဒေါက်တာခင်ရွှေသည်ပင် ငယ်စဉ်က ဖခင်ကြီးမရှိ၍ စာမေးပွဲဖြေဆိုရန် စက္ကူဖိုးတစ်မူးမျှကိုပင် မိခင်ကြီးက မပေးနိုင်၍ အိမ်နီးချင်းပုဂ္ဂိုလ်ကြီးတစ်ဦးက ပေးမှ စာမေးပွဲဖြေခွင့်ရခဲ့တယ်လို့ ဆိုပါတယ်။ ထိုသို့ဆိုပါက ဘာမှစမ်းနည်းစရာမလို။ သားတို့ သမီးတို့အဝသည် ဒေါက်တာခင်ရွှေ ငယ်စဉ်ကထက် သာကောင်း သာနိုင်ပါတယ်။

မိမိအသက်သာဆုံး အခြေအနေတစ်ရပ်ကို ရွေးချယ်ပြီးပါက ကြိုးစားပါ။ သူများတွေထက် ဆယ်ဆမက ကြိုးစားပါ။ မိမိ စတော်ရုံမျှနှင့် အခြေအနေကောင်းများ ပေါ်လာနိုင်ပါသည်။ စာသင်ခွင့်မရပါကလည်း အသက်မွေးဝမ်းကျောင်းလုပ်ငန်းတစ်ရပ်ကို စတင်အောင်သင်ပါ။ အရှုံးထဲမှ အမြတ်ထုတ်ပါ။ မိမိပြည့်စုံလာပါက အမေကို ခေါ်ထားမည်၊ အဖေကို ပြုစုမည်ဟူသောစိတ် မွေးမြူပါ။

မိဘနှစ်ပါး ကွာရှင်းကြရုံမျှဖြင့် သင်၏စာရိတ္တ မယိမ်းယိုင်ပါစေနှင့်။ မိဘတွေ မပြေလည်ကြလို့ မိမိက အရက်သောက်တာတို့၊ မပေါင်းသင့်သောသူနှင့် ပေါင်းတာတို့၊ မူးယစ်ဆေးဝါးမှီဝဲတာတို့ မလုပ်ပါနှင့်။ မိမိရဲ့စာရိတ္တကို သုံးလေးဆ ပို၍ ကြံ့ခိုင်တည်ဆောက်

ပါ။ စိတ်ခါတ်ကြံ့ခိုင်ပါစေ။ ထို့နောက် ပူဆွေးလွမ်းဆွတ် သောက ရောက်နေမည့်အစား ကိုယ်လက်ကြံ့ခိုင်မှုတစ်ခုခု လုပ်ဆောင်ပါ။ အလေးမ,ပါ။ ဘက်တမင်တန်ရိုက်ပါ။ ဘောလုံးကန်ပါ။ ရေကူးပါ။ နောက်ဆုံး အပန်းဖြေပါ။ ထိုသို့ ကိုယ်လက်ကြံ့ခိုင်မှု တစ်ခုခုလုပ်၍ အားကစားတစ်ခုခုတွင် ထူးချွန်သွားပါကလည်း သားတို့ သမီးတို့ဘဝ တွင် အောင်ပွဲများရလာနိုင်ပါသည်။ ဘဝအသိပညာပေးစာအုပ်များ အလွန်များပါသည်။ ဘဝအသိပညာပေးစာအုပ်များ၊ အတ္ထုပ္ပတ္တိစာအုပ် များကို လေ့လာပါ။ ကမ္ဘာကျော်ပုဂ္ဂိုလ်အများအပြားသည် ငယ်စဉ်က မိကွဲဖကွဲ အိမ်ထောင်များမှ ပြေးထွက်လာကြသူများ ဖြစ်သည်ကို တွေ့ရပါလိမ့်မည်။

ဘဝဆိုတာ အရှုံးပေးစရာမဟုတ်ပါ။

နောက်ဆုံး ဟယ်လင်ကဲလားကို သတိရပါ။ ကမ္ဘာကျော် အမျိုး သမီးကြီး ဟယ်လင်ကဲလားသည် မျက်စိလည်းမမြင်၊ ဆွံ့အရုံသာ မက နားလည်းမကြားပါ။ သို့သော် သူသည် အများတကာနှင့် ဆက်သွယ်နိုင်အောင် ကြိုးစားပြီး စာရေးဆရာဖြစ်အောင်၊ ကမ္ဘာကျော် အောင် ဆောင်ရွက်နိုင်ခဲ့ပါသည်။

ထို့ကြောင့် မိဘများ ကွာရှင်းပြတ်စဲရုံမျှဖြင့် သင့်ဘဝသည် ပစ်စလက်ခတ် မဖြစ်နိုင်ပါ။ မိဘများ ကွာရှင်းပြတ်စဲရုံမျှနှင့် သင့်ဘဝ ဖရိုဖရဲမဖြစ်ပါစေနှင့်။

နောက်ဆုံး လတ်တလော ဘယ်က စ,လုပ်ဆောင်ရမှန်းမသိလျှင် စာရေးသူနှင့် ဆက်သွယ်ပါ။

◆

## မေတ္တာစေတနာနဲ့ အခ်ိဳ့ကာအချိန်ပေးရမယ်

မှူးယစ်ဆေးဝါးစွဲတဲ့ ကလေးတွေဟာ အကြောင်းတစ်ခုနဲ့မဟုတ် တစ်ခုနဲ့ စောစောစီးစီး ကွယ်လွန်သွားကြတာချည်းပဲ။ ဘယ်သူမှ သက်ဆိုးမရှည်ကြဘူး။ မှူးယစ်ဆေးဝါးမရအောင် ဘယ်လိုလုပ်ရမလဲ ဆိုတော့ ဘယ်လိုမှ လုပ်လို့မရဘူး။ တစ်ကမ္ဘာလုံးမှာ မှူးယစ်ဆေးဝါး က ရှိနေတယ်။ ကာယကံရှင် မိဘများဟာ အသိပညာရော သတိ ဝိရိယရော မေတ္တာ စေတနာ စိတ်ရှည်သည်းခံမှုတွေနဲ့သာမက လုံလောက်တဲ့ အချိန်ပေးပြီး လုပ်ဆောင်ကြရမယ်။

## အခန်း (၆)

# ကျွန်မသူငယ်ချင်း ဆေးမှီဝဲနေတယ်။ ကျွန်မသူ့ကို ဘာကူညီပေးရမလဲ

မေး ။ ။ ကျွန်မ သူငယ်ချင်းတစ်ဦး ရှိပါတယ်။ သူ့ကိုကြည့်ရတာ ဆေးသုံးစွဲတဲ့လူငယ်တစ်ယောက်လိုပဲ။ ဟို…ဘိန်းဖြူတွေ ာတွေ သောက်တဲ့အထိတော့ ဟုတ်ဟန်မတူသေးပါဘူး။ ဒါပေမယ့် းပြားတွေ၊ ဆေးလုံးတွေတော့ မှီဝဲနေတာတော့ သေချာပါတယ်။ ှာ စာတော်တဲ့ကျောင်းသားတစ်ဦးဆိုတော့ သူ့ကို ဘယ်လို ကျွန်မ ကူညီရမလဲ။ ကျွန်မမှာ မောင်လေးနှစ်ယောက်လည်းရှိတော့ ကျွန်မ သူငယ်ချင်းကိုကြည့်ပြီး မောင်လေးတွေအတွက်လည်း စိုးရိမ်နေမိပါတယ်။ ျွန်မ ဘာလုပ်ရမလဲ။ အမြန်ဖြေစေလိုပါတယ်။ ကျွန်မနာမည်နဲ့ လိပ်စာ ာ့ မရေးတော့ပါဘူး။ စာစောင်ကနေပြီး ဖြေပါ။ စောင့်ဖတ်ပါမယ်။

(တိကျပြတ်သားတဲ့အဖြေသိလိုသူ)

ဖြေ ။ ။ ဘိန်းဖြူဟာ လူ့သားတစ်ရပ်လုံးကို ဒုက္ခပေးနေတာပဲ။ ကုဖို့ရာကလည်း ကုရာနတ္ထိ ဆေးမရှိလို့ ပြောရမယ့် ပါ။ ဘာပြုလို့လဲဆိုတော့ ဘိန်းဖြူဖြတ်ဆေးဆိုတာ မရှိလို့ပါဘဲ။

အခု သမီးသူငယ်ချင်းက ဆေးစ,ပြီးသုံးစွဲနေတဲ့ လူငယ်တစ်ယောက် ဖြစ်ဟန်တူပါတယ်။ ဒါဆိုရင်တော့ တိကျတဲ့အဖြေက သူ့ကို မဆက်ဆံတော့ဘဲ ဖြတ်တောက်လိုက်ဖို့ပါပဲ။ ဒါပေမယ့် သမီးကိုကြည့်ရတာ သူငယ်ချင်းအပေါ်မှာ သံယောဇဉ်ကလည်း ရှိနေပုံရတယ်။ သူ့ကို ဘိန်းဖြူချောက်ထဲက ဆွဲတင်ချင်တဲ့လက္ခဏာကလည်း ရှိနေတယ်။

ဘိန်းဖြူစွဲနေတဲ့ လူငယ်တစ်ယောက်ကို သူ့မိဘ၊ ညီအစ်ကို၊ မောင်နှမကလွဲပြီး အခြားသူတစ်ဦးက ကယ်တင်ဖို့ဆိုတာ အလွန်ခဲယဉ်းတဲ့အလုပ်ပဲ။ ဘာပြုလို့လဲဆိုတော့ ဒီကိစ္စ အချိန်ပေးရလို့ပါပဲ။ အချိန်ပေးရတဲ့ကိစ္စကို အမျိုးသမီးသူငယ်ချင်းတစ်ယောက်က ဝင်ရောက် ဖျောင်းဖျမယ်ဆိုတာမျိုး၊ နားဝင်အောင်ပြောမယ်ဆိုတာမျိုးက ဘယ်လိုမှ အခွင့်အရေးရနိုင်မယ် မထင်ပါဘူး။ နောက်ပြီး ဘိန်းစွဲနေတဲ့ လူငယ်တစ်ယောက်ကို ကယ်တင်ဖို့ကိစ္စကို သမီးမိဘများကရော ဘယ်ခွင့်ပြုပါ့မလဲ။

ဒါ့အပြင် အဲဒီလို လူငယ်တစ်ယောက်ကို ကယ်တင်ဖို့ကြိုးစားရင်း သမီးကိုယ်တိုင်လည်း ဘိန်းဖြူသောက်သုံးမိတဲ့ဘဝကို ရောက်သွားနိုင်တယ်။ ဘိန်းဖြူရဲ့သားကောင် ဖြစ်သွားနိုင်တယ်ဆိုတာ ကြပ်ကြပ်သတိထားပါ။

အခု ဖြစ်လေ့ဖြစ်ထရှိတာက ကိုယ့်သား ကိုယ့်သမီး ဘိန်းဖြူစွဲတယ်လို့ သိရရင် ဖခင်ဖြစ်သူဟာ ဂုဏ်သိက္ခာကို ထိခိုက်တယ်ထင်ပြီး ဒေါသတွေ ထွက်တော့တာပါပဲ။ ရှက်ကလည်းရှက်၊ ဘိန်းဖြူအန္တရာယ်ကို ကြောက်ကလည်းကြောက်၊ သူများတကာသိမှာလည်း စိုးတော့ ဒေါသနဲ့ဖြေရှင်းတာတို့၊ ကျိတ်ဖြေရှင်းတာတို့ လုပ်လေ့ရှိပါတယ်။ အမေများကတော့ သားအဲဒီလိုဖြစ်တယ်ဆိုရင် မျက်ရည်နဲ့

မျက်ခွက်ဖြစ်ပြီး ခြေမကိုင်မိ၊ လက်မကိုင်မိ ဖြစ်တော့တာပါပဲ။ ကိုယ့်သားသမီးကို ဆေးရုံပို့တာတို့ သက်ဆိုင်ရာပို့တာတို့ဆိုတာကလည်း မလုပ်ဖြစ်ကြပါဘူး။

လူငယ်တစ်ယောက် ဘိန်းဖြူစွဲတယ်ဆိုရင် ရုပ်ရှင်၊ ပညာပေးဗီဒီယိုမှာ ဇာတ်လမ်းတွေမှာပါတဲ့အတိုင်း ပထမတော့ ဘိန်းဖြူဖိုးငွေ မရှိအရှာကြတာပဲ။ ဘိန်းဖြူရဲ့သားကောင် ဖြစ်နေတဲ့အချိန်မှာ ဘာဆင်ခြင်တုံတရားမှလည်း မရှိတော့ဘူး။ အဲဒီမိသားစုကတော့ ငြိုဟ်ဆိုးဝင်တာပဲပေါ့။

ဒီကိစ္စက ဒေါသတို့ လောဘတို့နဲ့ ဖြေရှင်းလို့ရတဲ့ကိစ္စ မဟုတ်ပါဘူး။ မိသားစုထဲမှာ ဒီကိစ္စ ဝင်ရောက်လာပြီဆိုရင် ခေါင်းအေးအေးထားပြီး မေတ္တာနဲ့ပဲ ဖြေရှင်းရပါမယ်။ စိတ်ရှည်ရပါမယ်။ အထူးသဖြင့် မိမိတို့သားသမီး ဆေးစွဲတဲ့လက္ခဏာတွေ့ပြီဆိုရင် ဖခင်ကြီးဖြစ်တဲ့သူဟာ မိမိရဲ့ ဘယ်လောက်အရေးကြီးတဲ့ အလုပ်ကိုပဲဖြစ်ဖြစ် ရပ်ဆိုင်းလိုက်ပြီး သားအတွက် ၂၄ နာရီပတ်လုံး လပေါင်းများစွာ အချိန်ပေးရပါမယ်။ အဖေဖြစ်သူဟာ သားနဲ့အတူနေ၊ အတူသွား အတူစားပြီး ဘိန်းဖြူရနိုင်တဲ့စက်ကွင်းက လွတ်ကင်းတဲ့နေရာမှာ ပြောင်းရွှေ့နေသင့်ပါတယ်။

အတွေ့အကြုံရှိတဲ့ ဆရာဝန်ကြီးတစ်ဦးကတော့ ဘိန်းဖြူစွဲတဲ့ကလေးတွေဟာ အကြောင်းတစ်ခုနဲ့မဟုတ် တစ်ခုနဲ့ စောစောစီးစီး ကွယ်လွန်သွားကြတာပဲလို့ ပြောပါတယ်။ ဘယ်သူမှ အသက်မရှည်ကြဘူးတဲ့။ ဒီတော့ ဖခင်တွေဟာ သားရဲ့အသက်ကို လုံးဝ အချိန်ပေးပြီး ကယ်ရမှာကတော့ မေတ္တာပေးတာဝန်ပါပဲ။ လူတစ်ယောက်က

ဆရာဝန်ကြီးတစ်ဦးကို မေးဖူးတယ်။ ဘိန်းဖြူမရအောင် မသောက်မိအောင် ဘယ်လိုလုပ်ရမလဲဆိုတော့ ဘိန်းဖြူမရအောင်က ဘယ်လိုမှ လုပ်လို့မရဘူး။ တစ်ကမ္ဘာလုံးမှာ ဘိန်းဖြူက ရှိနေတယ်။ အရက်ဟာ နေရာတကာမှာ ရှိနေတာပဲ။ ဘယ်နေရာမှာပဲဖြစ်ဖြစ် ဝယ်လို့ရပါတယ်။ ဒါပေမယ့် လူတွေအားလုံး အရက်သမားတွေမှ မဟုတ်ကြဘူး။ အဲ...အရက်သောက်တတ်တဲ့လူတွေပဲ အရက်ကိုဝယ်သောက်ကြတာ။ ဒီလိုပဲ ဘိန်းဖြူက နေရာတကာမှာ ရှိနေတာပဲ။ အရက်မသောက်တတ်တဲ့လူလို ဘိန်းဖြူမသောက်ဖို့ပဲလိုတယ်။ ဘိန်းဖြူကင်းအောင် ရှင်းအောင်ကတော့ အစိုးရပေါင်းများစွာက လုပ်နေကြတာပဲ။ ဒါပေမယ့် အခုထိ မရသေးဘူး။

သမီးအနေနဲ့ သမီးသူငယ်ချင်းအတွက် အလုပ်နိုင်ဆုံးကိစ္စကတော့ သူ့မိဘများထံကို ဖုန်းနဲ့ဆက်ပြီး သူတို့သားဟာ ဘိန်းဖြူသုံးစွဲနေတယ်လို့ ထင်တဲ့အကြောင်း အသိပေးရပါမယ်။ ဒီလို သတိပေးလို့လည်း အရမ်းစိတ်မပူဖို့လည်း ပြောရပါမယ်။ ဒါထက်ကျော်ပြီး သမီးဘာမှမလုပ်သင့်ပါဘူး။ အဲဒီလို ပြောပြီးတဲ့နောက်ပိုင်း အဲဒီလူငယ်နဲ့လည်း သမီး အဆက်ဖြတ်ရပါမယ်။ သင့်မသင့်၊ တရားတာ မတရားတာကတော့ နှလုံးသားပြဿနာပဲ။ သမီးအနေနဲ့ ဘိန်းဖြူကိစ္စမှာ နှလုံးသားနဲ့ ဖြေရှင်းလို့မရဘူး။ ဦးနှောက်နဲ့ပဲ တိကျပြတ်သားစွာ ဖြေရှင်းရပါမယ်။

ကာယကံရှင် မိဘများကတော့ အသိပညာရော၊ သတိဝီရိယရော၊ မေတ္တာစေတနာ၊ စိတ်ရှည်သည်းခံမှုတွေနဲ့ လုံလောက်တဲ့အချိန်ပေးပြီး သူတို့ လုပ်ဆောင်ကြရပါမယ်။

**ပန်းမျိုးတစ်ရာစာပေ**

သမီးရဲ့မောင်လေးတွေအတွက် ပူစရာဆိုတာကလည်း တကယ့်ကို ပူသင့်ပူထိုက်တဲ့အရာပါ။ သမီးရဲ့မောင်လေးတွေကို ကျောင်းစာမှာ ဝါသနာပါအောင်၊ အပေါင်းအသင်းမမှားအောင်၊ အားကစားတစ်ခုခုမှာ ဝါသနာပါအောင်၊ ကျွမ်းကျင်အောင်၊ ဘာသာတရားကိုင်းရှိုင်းအောင်၊ ယဉ်ကျေးသိမ်မွေ့အောင် ငယ်စဉ်ကတည်းက သင်ကြားပေးရပါမယ်။ မိဘတွေဟာ သားသမီးမွေးပြီးရင် အဲဒီသားသမီးအတွက် မွေတွေ၊ အဝတ်အစားတွေ၊ ရွှေ၊ ငွေ၊ စိန်တွေ ဝယ်ပေးသလို အချိန်လည်း အလုံအလောက်ပေးရပါမယ်။

အဖေဖြစ်သူဟာ သူ့ပိုက်ဆံရှာပေးရင်ပြီးရောလို့ ထင်ပါတယ်။ ဒါ မမှန်ဘူး။ အဖေဟာ သားတွေအတွက် အချိန်ပေးရမှာဖြစ်သလို အမေကလည်း သမီးတွေအတွက် အချိန်ပေးရမယ်။ မိဘများဟာ သားသမီးများအတွက် ငွေနဲ့ပညာကိုသာမက အချိန်ကိုပါ ပေးရပါမယ်။

သားတစ်ယောက် ဘိန်းဖြူသုံးစွဲနေတယ်လို့ထင်တဲ့ ဖခင်တစ်ဦးဟာ ထင်တဲ့အချိန်ကပဲ အကယ်၍ မိမိက ရုံးကြီးတစ်ရုံးမှာ အကြီးအကဲကြီးတစ်ဦး ဖြစ်တယ်ပဲထားဦး။ အဲဒီရာထူးကို စွန့်လွှတ်ပြီး သားနဲ့ အချိန်ပြည့် သူငယ်ချင်းလိုနေပြီး သားရဲ့အသက်ကို ကယ်ရပါမယ်။ ဒီလိုမှမဟုတ်ဘဲ အော်ဟစ်ဆုံးမရုံနဲ့ ငိုပြရုံနဲ့ ဘယ်ဘိန်းဖြူစွဲနေတဲ့ကလေးကမှ မိမိဘက်ကို ပြန်လည်လာမှာမဟုတ်ဘူးဆိုတာ မိဘများ သိစေသင့်ပါတယ်။

ကိုယ့်သားသမီးကို ကိုယ်ဖိရင်ဖိ စောင့်ရှောက်ဖျောင်းဖျပြီး အစွမ်းကုန် အချိန်ပေးရပါမယ်။ မိဘများအတွက် အချိန်ပေးခြင်းသည် အစွမ်းထက်သော ဘိန်းဖြတ်နည်းတစ်ခုလို့ ယူဆစေလိုပါတယ်။

**ပန်းမျိုးတစ်ရာစာပေ**

သမီးအမေးကို ဒါလောက်ပဲဖြေပါရစေ။ နောက်ကြုံမှ ဒီထက်ပြည့်ပြည့်စုံစုံ ဖြေပါဦးမယ်။ အရေးကြီးတာကတော့...သမီးဟာ အဲဒီလူငယ်နဲ့ အဆက်ဖြတ်လိုက်ဖို့ သံယောဇဉ်ဖြတ်လိုက်ဖို့နဲ့ မိဘများကို တိကျခိုင်လုံတဲ့သတင်းကို တယ်လီဖုန်းနဲ့ပဲ ပေးပို့ပါ။ ကိုယ်တိုင်သွားပြောဖို့ မလိုပါဘူး။

သမီးမောင်လေးများအတွက် ပူသင့်တာ အမှန်ပါပဲ။ သမီးမောင်လေးများအတွက်လည်း စာရိတ္တကောင်းအောင်၊ လိမ္မာယဉ်ကျေးအောင်၊ အားကစားတစ်ခုခုမှာ စိတ်ဝင်စားအောင်၊ အကျိုးပြုစာပေကို မြတ်နိုးစိတ်ရှိအောင် ကြိုးစားထားပါလို့ မှာချင်ပါတယ်။

◆

## လူငယ်တွေသိထားမှဖြစ်မည်

ကမ္ဘာမှာ နေ့စဉ် လူငယ် ၇၀၀၀ လောက်ဟာ HIV ပိုး ကူးစက်ခံထိနေပါတယ်။ ဒါကို လျော့နည်းရပ်တန့်သွားအောင် လူငယ်များဟာ ဒီရောဂါနဲ့ပတ်သက်တဲ့ ဗဟုသုတတွေရှိမှ ဒီရောဂါအကြောင်းကို လေ့လာသိရှိထားမှဖြစ်မယ်။ အမျိုးသားယဉ်ကျေးမှုကိုချည်း အားကိုးလို့မရဘူး။ ခုခေတ် ခုကာလမှာ အချို့နေရာတွေမှာ အမျိုးသားယဉ်ကျေးမှု ကိုယ်တိုင်က အတော့်ကိုပါးလွှာနေပြီ။

## အခန်း (၇)

## HIV နဲ့ AIDS အကြောင်း ရှင်းရှင်းလင်းလင်းသိချင်နေပါတယ်။ Condom ကို ဘယ်လိုသုံးရမလဲ။ ဘယ်မှာ အလွယ်နဲ့ရမလဲ

မေး ။ ။ ကျွန်တော် HIV နဲ့ AIDS ရောဂါအကြောင်း ရှင်းရှင်းလင်းလင်း သိလိုပါတယ်။ ဆရာချစ်စံဝင်း အနေနှင့် ရန်ကုန်တိုင်းတွင် ထိုရောဂါအကြောင်း ဟောပြောခဲ့သည်ဟု ကြားသိခဲ့ရပါသည်။ Condom အသုံးပြုပါလို့လည်း ပြောပါတယ်။ အဲဒါ ဘယ်မှာရမလဲ။ ...ကို ဘယ်လိုသုံးရမလဲ။ တစ်ကြိမ်သုံးပြီး သိမ်းထားလို့ ရပါသလား။ ...ဆေးပြီး ပြန်သုံးလို့ရပါသလား။ ဒီရောဂါ ဘယ်လိုကူးစက်သလဲ။ ...ကူးစက်အောင် ဘယ်လိုနေရမလဲ။ ရောဂါ ဖြစ်ပြီဆိုရင် ဘာလုပ်ရမလဲ ...ိုသည့်အချက်များကို ကျွန်တော်တို့ သိလိုပါတယ်။

မောင်ဘိုလေး၊ မောင်ဝင်းမောင် (တာမွေ)

ဖြေ ။ ။ ဤမေးခွန်း ကောင်းပါတယ်။ ကျွန်တော်လည်း ဤမေးခွန်းကို ဖြေလိုပါတယ်။ ကမ္ဘာနှင့်အဝှမ်း HIV ...သယ်ဆောင်ထား သူများနဲ့ AIDS ဝေဒနာကို ခံစားနေရသူများ

နေ့စဉ်နှင့်အမျှ တိုးပွားနေပါတယ်။ **HIV-AIDS has no Boundries** ဆိုသည့်အတိုင်း **HIV** ပိုး ကူးစက်ပျံ့နှံ့ခြင်းနဲ့ **AIDS** ရောဂါဖြစ်ပေါ်နေတဲ့ကိစ္စမှာ နယ်နိမိတ်၊ စည်း၊ ကလနား သတ်မှတ်ပိုင်းခြားထားရှိနိုင်ခြင်း လုံးဝမရှိဘဲ ဖြစ်နေပါတယ်။ ဒီရောဂါကို ၁၉၈၁ ခုနှစ်က အမည်နာမ ထုတ်ဖော်နိုင်ခဲ့ပြီး ငါးနှစ်အကြာမှာ ရောဂါရှိသူ သုံးသောင်းရှိလာပါတယ်။ ၁၉၉၀ ပြည့်နှစ်မှာ တစ်ကမ္ဘာလုံးမှာ ထိုရောဂါရှိသူ သုံးသိန်း ဖြစ်လာပါတယ်။ ၁၉၉၀ ပြည့်နှစ်တုန်းက ၂၀၀၀ ပြည့်နှစ်မှာ ဒီရောဂါရှိသူ ၂ သန်းခန့်အထိ ရှိလာမယ်လို့ ခန့်မှန်းထားပေမယ့် ယနေ့ ၂၀၀၀ ပြည့်နှစ်အချိန်မှာ ကမ္ဘာပေါ်မှာ ဒီရောဂါကြောင့် သေပြီးသူ ၁၄ သိန်းနဲ့ ရောဂါရှိနေသူ ၃၅ သိန်း ဖြစ်တာကြောင့် ခန့်မှန်းတာထက် ၂၅ ဆလောက် ပိုမိုများပြားလာတဲ့အတွက် အထူးစိုးရိမ်စရာကောင်းတဲ့ရောဂါ ဖြစ်နေပါတယ်။ ဒီဇင်ဘာလတစ်ရက်နေ့ဟာ ကမ္ဘာ့ခုခံအားကျဆင်းမှု ကူးစက်ရောဂါ တိုက်ဖျက်ရေးနေ့ ဖြစ်ပါတယ်။ ဒီနှစ် ရောဂါတိုက်ဖျက်ရေးနေ့ရဲ့ ကြွေးကြော်သံကတော့–

မှတ်သားနာယူ နေအတူ
လူငယ်စွမ်းအား အေအိုင်ဒီအက်(စ်)တား
Listen, Learn, Live!
World AIDS Campaign with children and young people
ဖြစ်ပါတယ်။

ဒါကြောင့် ဒီရောဂါတိုက်ဖျက်ရေး တားဆီးရေးမှာ လူငယ်တွေ၊ တက်လူတွေရဲ့ အခန်းကဏ္ဍ အရေးပါနေတယ်ဆိုတာလည်း သိရပါတယ်။

HIV နဲ့ AIDS ရောဂါကာကွယ်ဆေး ကုသနိုင်တဲ့ဆေး မရှိသေးပါဘူး။ ဒီအချိန်မှာ မိမိ ဒီရောဂါမဖြစ်ရအောင် ကြိုတင်ကာကွယ်ခြင်းဟာ ဒီရောဂါနဲ့ပတ်သက်လို့ အကောင်းဆုံးလုပ်ဆောင်ချက် ဖြစ်ပါတယ်။

AIDS ရောဂါကိုဖြစ်စေတဲ့ HIV ပိုးဟာ ဝေဒနာရှင်ရဲ့ ခန္ဓာကိုယ်အရေပြားထဲမှာ ရှိနေပါတယ်။ အရေပြားထဲမှာ အများဆုံးတွေ့ရတဲ့နေရာတွေက–

၁။ သွေးရည်
၂။ သုက်ရည် (ယောကျ်ား)
၃။ မိန်းမကိုယ်ကထွက်သောအရည် (မိန်းမ)တို့ဖြစ်ပါတယ်။

ဒီရောဂါ ဘယ်လိုကူးစက်သလဲဆိုရင်–

၁။ ရောဂါပိုးရှိသူနဲ့ လိင်တူ/လိင်ကွဲ–လိင်ဆက်ဆံခြင်း
၂။ ရောဂါပိုးရှိတဲ့သွေးနဲ့ သွေးနဲ့ပြုလုပ်သောပစ္စည်းများ မှားသွင်းမိခြင်း
၃။ ရောဂါပိုးရှိသူ အသုံးပြုပြီးတဲ့ ဆေးထိုးအပ်၊ ဆေးထိုးပြွန်၊ ခွဲစိတ်ကိရိယာများကို သန့်စင်အောင်မပြုလုပ်ဘဲ သုံးစွဲခြင်း
၄။ ရောဂါပိုးရှိတဲ့မိခင်က သန္ဓေသားကို ကူးစက်ခြင်း တို့က ကူးစက်ပါတယ်။

"မကူးစက်အောင် ဘယ်လိုနေရမလဲဆိုရင်တော့–

ဖော်ပြပါ ကူးစက်တဲ့နည်းလမ်းများကို ဖြတ်တောက်ထားရင် မကူးစက်အောင်နေတာပါပဲ။ ဒါကတော့–

၁။ တစ်လင်တစ်မယားစနစ်ကို ကျင့်သုံးရမယ်။ မိန်းမပြည့် တန်ဆာ၊ ယောကျ်ားပြည့်တန်ဆာများနှင့် လိင်တူလိင်ကွဲ လိင်ဆက်ဆံခြင်း မပြုလုပ်ရဘူး။ အကယ်၍ ဆက်ဆံမှု ပြုမည်ဆိုပါက Condom ခေါ် ယောကျ်ားအင်္ဂါအစွပ်ကို အသုံးပြုပြီးမှ ဆက်ဆံရမှာ ဖြစ်ပါတယ်။

၂။ မလိုအပ်တဲ့သွေးသွင်းခြင်းမှ ရှောင်ရှားရပါတယ်။ မလွှဲမရှောင်သာဘဲ သွေးသွင်းရပါက HIV ပိုး လုံးဝကင်းစင်သောသွေးကို သေချာစွာ စစ်ဆေးပြီးမှသာ သွေးသွင်းရမှာဖြစ်ပါတယ်။

၃။ ခွဲစိတ်ကုသမှုခံမည့်သူများအတွက် ဆရာဝန်၊ သူနာပြု၊ ကျန်းမာရေးဝန်ထမ်းများက ပိုးကင်းစင်အောင် နာရီပြည့်ပြုတ်ပြီးတဲ့ကိရိယာများကိုသာ သုံးစွဲဖို့လိုပါတယ်။ မူးယစ်ဆေးဝါးကို အကြောထဲသို့ ဆေးထိုးအပ်နဲ့ ထိုးသွင်းမှုကို လုံးဝရှောင်ရပါမယ်။

၄။ HIV-AIDS ရောဂါပိုး ခင်ပွန်းတွင်လည်းကောင်း၊ ဇနီးတွင်လည်းကောင်း၊ နှစ်ဦးစလုံးတွင်လည်းကောင်း ရှိပါက သန္ဓေသား မရရှိအောင် ကာကွယ်ဖို့လိုပါတယ်။

၅။ HIV-AIDS ဝေဒနာရှင်တို့၏ အညစ်အကြေးများကို ကိုင်တွယ်တဲ့အခါ မိမိလက်တွင် အပေါက်အပြဲ ဒဏ်ရာရှိ၊မရှိ စစ်ဆေးရပါမယ်။ ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ လက်အိတ်ကို အသုံးပြုရန် လိုအပ်ပါတယ်။

HIV ပိုး သယ်ဆောင်ထားသူများဟာ AIDS ရောဂါသို့ မကူးပြောင်းသေးသောအချိန်ကာလတွင် လူကောင်းပကတိကဲ့သို့ လှုပ်ရှား

သွားလာ ပြောဆိုနိုင်ပါတယ်။ ထိုသူများနှင့်အတူ ထမင်းစား၊ အတူ ရုပ်ရှင်ကြည့်ခြင်း၊ အတူသွား အတူလာခြင်းတို့ ပြုနိုင်ပါတယ်။ ရောဂါပိုးသယ်ဆောင်ထားသူများသောက်သော ဖန်ခွက်၊ ဇွန်း၊ ဖန်ခွက်၊ ဆေးလိပ်၊ အပေါ်ယံနမ်းခြင်း၊ လက်ဆွဲနှုတ်ဆက်ခြင်းတို့မှ မကူးစက်ပါ။ သို့သော်...ရောဂါပိုးရှိသူသည် နှုတ်ခမ်း သို့မဟုတ် ပါးစပ်တွင် အနာရှိနေပါက ယင်းတို့ သုံးစွဲသော ပန်းကန်ခွက်ယောက်များတွင် ပိုးများကပ်နေနိုင်တာကြောင့် ထပ်ဆင့်သောက်မည့်သူကလည်း နှုတ်ခမ်း၊ ပါးစပ်တွင် အနာရှိမည်ဆိုပါက ရောဂါကူးစက်နိုင်ပါတယ်။

**သမီးရည်းစား ချစ်သူများ ပါး၊ နဖူး၊ လက် စသည်တို့တွင် အပေါ်လွှာနမ်းခြင်း Super Facial Kissing ဖြင့် ရောဂါ မကူး စက်နိုင်ပါ။ သို့သော် မိမိတို့စိတ်ကို မထိန်းနိုင်ဘဲ ပါးစပ်တစ်ခုလုံး၊ လျှာ၊ သွားများပါ ပါဝင်နမ်းတဲ့ Wet Kissing ဖြစ်ပါက တံတွေး များ၊ အရည်များမှ ကူးစက်နိုင်ပါတယ်။**

Condom အသုံးပြုခြင်း၏ ရည်ရွယ်ချက်မှာ ထိုရောဂါရှိသူ တစ်ဦးထံမှ အရည်၊ သုက်ရည် စသည်တို့ အခြားတစ်ဦးထံသို့ ရောက်ရန် ရည်ရွယ်ခြင်းဖြစ်ပေရာ ထိုအရည်များ မထိမိအောင်၊ တစ်ဦး၏အရည် အခြားတစ်ဦးထံ မပေမကျံ မထိအောင် သတိထား ၍ သုံးရမည်ဖြစ်ပါတယ်။ သတိထားရမည်ဆိုရာတွင် Condom ကို ပါသောအိတ်ဖြင့် ထည့်ထားရာ ထိုအိတ်ကိုဖောက်စဉ်ကပင် သတိ ထားရမည်။ စွပ်သောအခါတွင်လည်း သတိထား၍ စွပ်ရမည်၊ ချွတ် သောအခါတွင်လည်း သတိထား၍ ချွတ်ရမည်ဖြစ်သည်။ ချွတ်သော အခါ အပြင်တွင် ပေကျံနေသော အရည်များသည် မိန်းကလေးမှ အရည် များဖြစ်ရာ Condom အစွပ်ကို မိန်းကလေးက ချွတ်ပေးသည်က

ပို၍ အန္တရာယ်ကင်းမည်ဖြစ်ပါတယ်။ Condom သည် တစ်ခါသုံး ဆေးထိုးအပ်လို တစ်ခါသုံးပစ္စည်းဖြစ်တယ်။ တစ်ခါသုံးပြီးပါက လွှင့်ပစ်ရန်လိုပါမည်။ အထူးသဖြင့် မြေတွင်မြှုပ်ပစ်ခြင်းသည် ပို၍ ကောင်းပါတယ်။ တစ်ခါသုံးပြီးပစ္စည်းကို ရေဆေးပြီး ဒုတိယအကြိမ် ပြန်မသုံးပါနှင့်။ ရေဆေးစဉ် မိမိလက်တွင် ဒဏ်ရာရှိပါက ကူးစက်နိုင်ပါတယ်။

APHAW အဖော်တံဆိပ် Condom ကို သက်ဆိုင်ရာက ထောက်ခံဖြန့်ချိလျက်ရှိပါတယ်။ APHAW ဟာ အမေရိကန်နိုင်ငံမှ လုပ်တဲ့ Condom ဖြစ်ပါတယ်။ မည်ကဲ့သို့ စနစ်တကျ အသုံးပြုရမည်ကို မြန်မာဘာသာနဲ့ အညွှန်းရေးသားထားပါတယ်။ တန်ဖိုးမှာ တစ်ခု ၃ ကျပ်မျှသာဖြစ်သော်လည်း တန်ဖိုးမဲ့ အသုံးမပြုရန် တစ်ခုကို ၂၀ ကျပ်မျှဖြင့် ဖြန့်ဖြူးလျက်ရှိကြောင်း သိရပါတယ်။

အပျော်အပါးရှောင်ခြင်း၊ မိမိဇနီးမယား၊ ခင်ပွန်းအပေါ် သစ္စာရှိခြင်းဟာ အကောင်းဆုံးဖြစ်သော်လည်း ထိုနည်းမှလွဲလျှင် ကွန်ဒုံးသုံးစွဲခြင်းသည် HIV ပိုးကို ကာကွယ်ရန် အကောင်းဆုံးဖြစ်ပါတယ်။ HIV ပိုးဟာ ရာဘာကွန်ဒုံးကို မထိုးဖောက်နိုင်တဲ့အတွက် လိင်ဆက်ဆံသည့်အခါတိုင်း ကွန်ဒုံးအသုံးပြုပါက HIV ရောဂါဖြစ်ပွားမှုမှ ကာကွယ်နိုင်ကြောင်း ဖြေကြားလိုက်ပါတယ်။

ယခုနှစ်တွင် HIV - AIDS ရောဂါနှင့်ပတ်သက်၍

**"မှတ်သားနာယူ နေအတူ လူငယ်စွမ်းအား AIDS တား"** ဟူသော ဆောင်ပုဒ်ကို လူငယ်များ ပိုမိုသဘောပေါက်အောင် ရှင်းလိုပါတယ်။

◆

မှတ်သားနာယူ

HIV - AIDS နှင့် ပတ်သက်၍ မှတ်သားနာယူ ဟူသောအချက်တွင် လူငယ်များက ထိုရောဂါအပေါ် မည်သို့ခံယူထားကြသည်ကို လူကြီးများက သိရှိရန်လိုသည်။ ဤရောဂါနှင့်ပတ်သက်၍ လူငယ်များထံမှ ခံစားချက်များ သူတို့၏အတွေးများကို လူကြီးများက လေ့လာမှုဆောင်ကြရမည်ဖြစ်သည်။ လူငယ်များအကြားရှိ ပြဿနာများကို လူကြီးများသိမှ လူကြီးများက လူငယ်များအတွက် မိမိတို့ ဘာလုပ်ပေးရမည်ကို သိရှိနိုင်မည်ဖြစ်ပါသည်။

လူငယ်များကလည်း ဤရောဂါနှင့်ပတ်သက်၍ မသိသည်များကို အောင်ဘိုလေးနှင့် မောင်ဝင်းမောင်တို့လို သိလိုစိတ်နှင့် မေးမြန်းကြရမည်ဖြစ်သည်။ လူငယ်အချင်းချင်းလည်း ဤရောဂါအကြောင်း အသိချင်းဖလှယ်ကြရမည် ဖြစ်၏။ ရောဂါကူးစက်ခံရသူများထံမှလည်းကောင်း၊ လူကြီးများထံမှလည်းကောင်း၊ ဆေးပညာရှင်များ၊ ကျန်းမာရေးအမှုထမ်းများထံမှလည်းကောင်း၊ စာပေနှင့် မီဒီယာများမှလည်းကောင်း HIV-AIDS အကြောင်းများကို လူငယ်များက သိရှိအောင် လေ့လာကြရမည်ဖြစ်၏။ လေ့လာပြီး မိမိတို့ကိုယ်တိုင် ဤရောဂါမှ ကင်းဝေးအောင် ထိုရရှိသော အသိပညာဖြင့် ဆင်ခြင်နေထိုင်ကြရမည်ဖြစ်ပါ၏။

HIV-AIDS ရောဂါသည် လူသားများအတွင်းသို့ သူ့ဟာသူ ရောက်ရှိလာသော ရောဂါဖြစ်၏။ လိင်ဆက်ဆံမှုများသည် ဤရောဂါ ကမ္ဘာပေါ်တွင် မရှိစဉ်ကပင် ဆက်ဆံမှုများရှိရာ ဤရောဂါသည် လိင်ဆက်ဆံမှုကြောင့် ရောဂါရလာရသည်ထက် ဤရောဂါ ကမ္ဘာမြေ

ပေါ်သို့ ရောက်ရှိလာခြင်းကြောင့် လူသားတို့ ထိုရောဂါဆိုးကပ်ခံရပေရာ HIV-AIDS ရောဂါရရှိသူများကို ဤရောဂါ ရရှိလေရသလားဟု ဝိုင်းပယ်ခြင်း၊ နှိမ့်ချခြင်း၊ စွန့်ပစ်ခြင်း စသည့်လုပ်ငန်းများသည် မလုပ်ကောင်းသောကိစ္စများ ဖြစ်ပါ၏။ အချို့သော ဤရောဂါသည် များသည် သွေးသွင်းရာမှ၊ လမ်းတွင် ကားတိုက်ခံရသောသူကို ကူညီမိရာမှ ရောဂါရခြင်းများရှိလေရာ ရောဂါရရှိသူတိုင်းသည် လိင်ဖောက်ပြန်၍ ရောဂါရကြခြင်း မဟုတ်သည်ကို သဘောပေါက်ပါမှ တရားမျှတရာကျပါမည်။

၁၉၈၁ ခုနှစ်မှ ယနေ့အထိ AIDS ရောဂါကြောင့် သေဆုံးသူ ကမ္ဘာပေါ်တွင် ၁၄ သန်းရှိခဲ့ပြီးဖြစ်သည်။ ယနေ့ကမ္ဘာပေါ်တွင် HIV ပိုးရှိနေသူနှင့် AIDS ရောဂါလက္ခဏာ ပေါ်ပေါက်နေသူ အရေအတွက်မှာ ၃၅ သန်းရှိနေ၏။ တစ်ဖန် ကမ္ဘာပေါ်တွင် အသက် ၁၀ နှစ်မှ ၂၄ နှစ်အကြားရှိသူ လူငယ် ၇၀၀၀ ခန့်သည် နေ့စဉ် HIV ပိုးကူးစက်ခံထိနေရပါ၏။ လူတိုင်း ထိုရောဂါကို မကူးစက်အောင် သတိရှိကြပြီး ရောဂါကူးစက်ခြင်းမခံရအောင် နေထိုင်ပြုမူကြမှသာ ရောဂါဖြစ်ပွားမှု လျော့နည်းသွားအောင် ဆောင်ရွက်နိုင်မည်ဖြစ်ပါ၏။

နေ့စဉ် လူငယ် ၇၀၀၀ ခန့် HIV ပိုး ကူးစက်ခံနေရသည်ကို လျော့နည်း ရပ်တန့်သွားအောင် လူငယ်များသည် ဤရောဂါအကြောင်းနှင့် ပတ်သက်၍ ဗဟုသုတရှိမှ၊ ဤရောဂါအကြောင်းကို လေ့လာသိရှိမှ ရောဂါမကူးစက်အောင် ရှောင်ရှားနိုင်မည်ဖြစ်ပါ၏။

HIV-AIDS ရောဂါကို မိသားစုအတွင်း ဆွေးနွေးခြင်း၊ ကျောင်း၌ ဆွေးနွေးခြင်း၊ လူငယ်အချင်းချင်း ဆွေးနွေးခြင်းများလည်း ပြုလုပ်

ရန် လိုအပ်ပါ၏။ ဤရောဂါဆိုင်ရာ အသိပညာရှင်များ တိုးပွားလာခြင်းသည် ဤရောဂါကို ကာကွယ်ခြင်း၊ တားဆီးခြင်း ပြုလုပ်သည်နှင့် အတူတူပင်ဖြစ်ပါ၏။

HIV-AIDS တားဆီးရန် မြန်မာ့ယဉ်ကျေးမှုသည် အလွန်ခိုင်ခံ့သော အကာအကွယ်၊ အလွန်အားကိုးလောက်သော အားကိုးအားထားတစ်ရပ်ဖြစ်သည်မှာ အမှန်ပင်ဖြစ်ပါသည်။ သို့သော် ရန်ကုန်၊ မန္တလေး အပါအဝင် မြို့ကြီးပြကြီးတွင်း၌ မြန်မာ့ယဉ်ကျေးမှု အပြည့်အဝ လွှမ်းခြုံထားရှိမှု ရှိ,မရှိဆိုသောအချက်ကို ကျွန်တော်တို့ သတိထားကြရမည်ဖြစ်ပါ၏။ အနောက်တိုင်းယဉ်ကျေးမှုသည် မြန်မာလူငယ်ထုအတွင်း နှစ်ပေါင်းအတော်ကြာကပင် ထိုးဖောက်လျက်ရှိရာ လူငယ်တို့သည် ခေတ်ပေါ်ယဉ်ကျေးမှုများကို အထိုက်အလျောက် ခံယူလျက်နေကြသည်ကို ကျွန်တော်တို့ မသိယောင်ဆောင်နေ၍ မရတော့သည်မှာ အမှန်ဖြစ်ပါသည်။

ခေတ်ပေါ်ယဉ်ကျေးမှုနှင့် အနောက်တိုင်းယဉ်ကျေးမှုကို အထင်ကြီးသောလူငယ်များ၊ မြန်မာ့မိသားစုများရှိနေရာ မြန်မာလူငယ်များအတွင်း အမျိုးသားယဉ်ကျေးမှု ထွန်းကားရေးကိစ္စရပ်သည်လည်း လူငယ်များရော လူကြီးများပါ လက်တွဲလုပ်ဆောင်ရမည့် လုပ်ငန်းတစ်ရပ်ဖြစ်ပါ၏။

ရှေးအခါက တစ်မိသားနှင့် တစ်မိသား မေတ္တာမျှကြသည်ဟုဆိုပါက လူငယ်များသည် သုံးနှစ်သုံးမိုးစောင့်သည်။ တစ်ဦးနှင့်တစ်ဦး တစ်ခါတစ်ကမ်း လက်တစ်လှမ်း နေထိုင်ကြသည်မှာ မြန်မာတို့၏ ဓလေ့ဖြစ်ပါ၏။ ထိုဓလေ့သည် ယနေ့ မြန်မာနယ်ပယ်တွင် အပြည့်

အဝ မတွေ့နိုင်တော့ပါ။ ဤမျှ ဖွံ့ဖြိုးတိုးတက်လာသောခေတ်တွင် ပဝါတစ်ကမ်း လက်တစ်လှမ်း နေကြရမည်ဟု မဆိုလိုသော်လည်း မြန်မာလူငယ်များ မြန်မာ့ယဉ်ကျေးမှုကို ထိန်းသိမ်းလိုက်နာကြရမည်မှာ မလွဲမသွေကိစ္စ၊ ရှောင်လွှဲ၍မရသောကိစ္စဖြစ်ပါ၏။

HIV-AIDS ကို အမျိုးသားယဉ်ကျေးမှုသည် ကာကွယ်တားဆီးနိုင်သော်လည်း အမျိုးသားယဉ်ကျေးမှုပါ အားနည်းနေလျှင်ကား အမျိုးသားယဉ်ကျေးမှုသည်လည်း ထိုရောဂါကို ကာကွယ်မှုပြုနိုင်မည်မဟုတ်ပါ။

ထို့ကြောင့် မောင်ဘိုလေးတို့၊ မောင်ဝင်းမောင်တို့ကဲ့သို့သော လူငယ်များသည် ဤရောဂါဆိုးကြီးမှ ကာကွယ်ရန် မိမိတို့၏ အမျိုးသားယဉ်ကျေးမှုကို မိမိတို့ ထိန်းသိမ်းခြင်း၊ လူငယ်များ ပတ်ဝန်းကျင်တွင် အမျိုးသားယဉ်ကျေးမှုအားမာန်များ တိုးပွားရေးကို လူငယ်တိုင်း ကြိုးပမ်းကြရမည်ဖြစ်ပါ၏။

နောက်ဆုံးဖြေဆိုရန်ကျန်ရှိသော အမေးတစ်ခုမှာ ဖြစ်ပြီဆိုရင် ဘာလုပ်ရမလဲဟူသောမေးခွန်း ဖြစ်၏။ ဤမေးခွန်းသည်လည်း မေးထိုက်ပါသည်။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာပေါ်ရှိ ကူးစက်ထိနေသူ ၃၅ သန်းမျှ ရှိနေသည်မဟုတ်ပါလော။

ဤရောဂါကူးစက်ခံရပြီး HIV ပိုး မိမိထံတွင် ရှိနေပြီဟုဆိုသည်နှင့် ထိုသူသည် ထိတ်လန့်ခြင်း၊ ကြောက်ရွံ့ခြင်း၊ တုန်လှုပ်ချောက်ချားခြင်း၊ စိုးရိမ်ကြောင့်ကြခြင်း၊ ဒေါသထွက်ခြင်း၊ အပြစ်တင်ခြင်း၊ ဖုံးကွယ်ခြင်း၊ ငြင်းဆန်ခြင်း၊ အားငယ်ခြင်း၊ စိတ်ဓာတ်ကျခြင်းတို့ ဖြစ်ပေရာ မိဘ၊ မောင်နှမ၊ ဆွေမျိုး၊ သူငယ်ချင်းများက ရောဂါ၏ သဘာဝကို သိရှိနားလည်ကာ အားပေးနှစ်သိမ့်စကား ပြောကြရမည်

ဖြစ်ပါ၏။ လူသည် AIDS ရောဂါရမှ သေခြင်းမဟုတ်။ ဤရောဂါနှင့် မသေရလျှင် အခြားရောဂါတစ်ခုခုကြောင့် သေနိုင်မည်ဖြစ်ရာ ဖြစ်လာမှတော့ ဖြေသိမ့်နိုင်ရမည်ဖြစ်ပါ၏။

ရောဂါဖြစ်ပြီဟုဆိုပါက ရောဂါကူးစက်ခံရသူများသည်-

၁။ မိမိနှင့်ပတ်ဝန်းကျင်အပေါ် စိတ်ကောင်းထား၍ ဆက်ဆံရမည်။

၂။ မည်သူက မည်သူ့ကိုမျှ အပြစ်မတင်ပါနှင့်။

၃။ ဤရောဂါရရှိခြင်းကို စိတ်မလုံမလဲမဖြစ်ပါနှင့်။ မရှက်ပါနှင့်။

၄။ ကျန်းမာရေးဝန်ထမ်းများနှင့် ပွင့်လင်းစွာဆွေးနွေးပါ။

၅။ အာဟာရပြည့်ဝစွာစားပါ၊ ပရိုတိန်း၊ ဗီတာမင်နှင့် ကစီဓာတ်များ လုံလောက်စွာစားပါ။

၆။ ဆေးလိပ်၊ အရက် ရှောင်ပါ။

၇။ သင့်တင့်သောလေ့ကျင့်ခန်း ပြုပါ။ ကျန်းမာအောင်နေပါ။ အိပ်ရေးဝအောင် အိပ်ပါ။ တစ်နေ့ ၈ နာရီ ပြည့်အောင် အိပ်ပါ။

၈။ အလုပ်လုပ်ကိုင်နိုင်စွမ်းရှိပါက အလုပ်လုပ်ပါ။ မိမိအချိန်ကို အလုပ်လုပ်၍ အသုံးပြုပါ။

၉။ မိမိကိုယ်နှင့် စိတ်သက်သာအောင်နေပါ။

၁၀။ မိသားစုမျိုးများအတွင်း ပျော်ရွှင်စွာနေပါ။

၁၁။ ကောင်းသောအတွေးအခေါ် အနေအထိုင်ရရှိစေရန် နှစ်သိမ့်ပညာပေး ဆွေးနွေးနိုင်သူများနှင့် ဆွေးနွေးနေထိုင်ပါ။

**ပန်းမျိုးတစ်ရာစာပေ**

၁၂။ ရောဂါရရှိပြီးသူများ လိင်ဆက်ဆံမည်ဆိုပါက Condom ကိုသုံးပါ။ HIV ပိုးရှိသော အမျိုးသမီးများ ကိုယ်ဝန်မရှိအောင်နေပါ။ ကိုယ်ဝန်ဆောင်ပါက AIDS ရောဂါသို့ ကူးပြောင်းရန် အလားအလာပိုမိုကြောင်း တင်ပြရင်း လူငယ်တို့၏အမေးကို အလေးထား ဖြေကြားလိုက်ရပါသည်။

◆

## ပြည်တွင်းမှာ သင်စရာ၊ သိစရာ ကုန်ပြီလား

နိုင်ငံခြားမှာ ပညာသင်လိုသည်ဟုဆိုပါက မြန်မာနိုင်ငံမှာ သင်ယူရမယ့်ပညာက ကုန်ပြီလား။ မြန်မာနိုင်ငံမှာ သင်ယူရတဲ့ပညာကို ကုန်စင်အောင်တတ်ပြီးပြီလားဟူသောအချက်ကို ဆန်းစစ်ပါ။ မြန်မာနိုင်ငံသည် ပညာသင်စရိတ် အလွန်သက်သာသောနိုင်ငံ ဖြစ်သည်။

ပန်းမျိုးတစ်ရာစာပေ

## အခန်း (၈)

### ကျွန်တော် ဆယ်တန်းအောင်ပြီးပြီ။ နိုင်ငံခြား ပညာသွားသင်ချင်ပါတယ်။ ဘယ်နိုင်ငံသွားရမလဲ။ ဘယ်လောက်လောက်ကုန်မှာလဲ

**မေး** ။ ။ ကျွန်တော် ဆယ်တန်းအောင်ပြီးပါပြီ။ ကျွန်တော့် မိဘများက ငွေကြေးပြည့်စုံ တတ်နိုင်မှုလည်းရှိပါသည်။ ကျွန်တော်ကိုယ်တိုင်က အခြားလူငယ်များနည်းတူ နိုင်ငံခြားသို့ ပညာ သွားရောက်သင်လိုပါသည်။ သွားရင် ဘယ်နိုင်ငံကိုသွားရမလဲ။ ကုန်ကျစရိတ် ဘယ်လောက်ကုန်မလဲ။ သွားသင့်မသွားသင့် ဖြေကြားပေးစေလိုပါသည်။

အောင်လင်းနိုင်(မြောက်ဥက္ကလာပ)

**ဖြေ** ။ ။ နိုင်ငံခြားသို့ သွားရောက်ပညာသင်ကြားမှုကို ကျွန်တော်တို့အနေနှင့် မကန့်ကွက်ပါ။ အားပေးပါသည်။ သို့သော် မေးခွန်းသုံးခု မေးစရာရှိပါသည်။

၁။ တကယ်ပညာသွားသင်မှာလား။ မိဘက ပိုက်ဆံပေါလို့ ပညာသင်ဆိုပြီး သွားတာလား။

၂။ မြန်မာပြည်တွင်းမှာ သင်ကြားရမည့်ပညာရပ်များ အကုန်အစင်တတ်ပြီးပြီလား။

၃။ နိုင်ငံခြားသို့ သွားရောက်နိုင်လောက်အောင် ကိုယ်နှင့်စိတ် ကြံ့ခိုင်မှုရှိပြီးပြီလို့ ယူဆပါသလား။

ဆိုသည့် မေးခွန်းများဖြစ်ပါ၏။

ပထမမေးခွန်းသည် အရေးကြီးပါသည်။ အကယ်၍ ပညာသင်သွားရောက်လိုပါက သွားဖြစ်အောင်သွားပါ။ ကျွန်တော်တို့လည်း ကူညီပါမည်။ သို့သော် မိဘပိုက်ဆံပေါလို့ ပညာသင်ကြားမှုကို အကြောင်းပြု၍သွားခြင်းဆိုပါက ငွေနှင့်အချိန်ကုန်သဖြင့် သွားရန်မသင့်ပါ။ ပထမမေးခွန်းကို အမှန်အတိုင်း ရိုးရိုးသားသား မိမိဘာသာမိမိ ဖြေဆိုဖို့ လိုပါသည်။ သို့သော် နိုင်ငံခြားဗဟုသုတရရန်ဆိုပါက မိဘက ငွေကြေးအကုန်အကျခံနိုင်သလောက် နိုင်ငံတကာကို အလည်အပတ်ထွက်နိုင်ပါ၏။ ထိုင်း၊ မလေး၊ စင်ကာပူ၊ ဟောင်ကောင်၊ ဂျပန် တစ်ကမ္ဘာလုံး ရောက်ဖူးအောင် သွားသင့်ပါ၏။

ဒုတိယမေးခွန်းကလည်း လိုအပ်၍ မေးခြင်းဖြစ်ပါသည်။ နိုင်ငံခြားကို ပညာသွားသင်လိုသည်ဟုဆိုပါက မြန်မာနိုင်ငံတွင် သင်ယူ၍ ရရှိသော ပညာရပ်များကို ကုန်စင်အောင်သင်ပြီးပြီလားဟူသော အချက်ကို ဆန်းစစ်ဖို့လိုပါသည်။ မြန်မာနိုင်ငံသည် ပညာသင်စရိတ်အသက်သာဆုံးနိုင်ငံ ဖြစ်ပါ၏။ မြန်မာနိုင်ငံတွင် ပညာရပ်တစ်ခုကို တစ်လတစ်သောင်းခွဲ၊ နှစ်သောင်းထက် ပိုကုန်စရာမလိုပါ။ ယင်းသို့အကုန်အကျခံမည်ဆိုပါက မြန်မာနိုင်ငံတွင် လိုအပ်သောပညာ အစုံရပါသည်။

မြန်မာနိုင်ငံတွင် တစ်လနှစ်သောင်းဖြင့်ရနိုင်သောပညာကို ထိုင်းနိုင်ငံတွင် သွားရောက်သင်ကြားမည်ဆိုပါက ကျပ်နှစ်သိန်းမှ သုံးသိန်း၊ မလေးရှားတွင်သင်ပါက သုံးသိန်း၊ စင်ကာပူတွင်သင်ပါက ငါးသိန်းခန့် ကုန်ကျပါမည်။ အင်္ဂလန်တွင် မြန်မာလူငယ်တစ်ဦး ပညာသင်ကြားပါက တစ်လ ခုနစ်သိန်း ကုန်ကျပါမည်။ သို့သော် အလုပ်လုပ်ရင်း သင်ကြားပါက ဝင်ငွေရရှိနိုင်သော်လည်း ထိုနိုင်ငံများက ကျောင်းသားများ အလုပ်လုပ်ရန် ခွင့်ပြုမှု နည်းပါးသည်။ အလုပ်ကိုခိုး၍လုပ်ကြရပါသည်။ စင်ကာပူနိုင်ငံတွင် မြန်မာလူငယ်တစ်ယောက်ပညာသင်သွားသင့်ပါက တစ်နှစ် သိန်းငါးဆယ်ခန့် ကုန်ကျပါမည်၊

အင်္ဂလိပ်စာကို မြန်မာနိုင်ငံတွင် ရေးတတ် ပြောတတ် ဖတ်တတ်အောင် သင်ပါဦး။ မြန်မာနိုင်ငံတွင် ဆယ်တန်းအောင်ပြီးပါက တက်နိုင်သောသင်တန်းများရှိပါ၏။ ကွန်ပျူတာပညာတွင် သင်သည့်မြန်မာနိုင်ငံ၌ သင်သင့်တာ အကုန်အစင်တတ်ပြီးပြီလား။ တစ်ဖန်စီးပွားရေးဆိုင်ရာ ပညာရပ်များကို မြန်မာနိုင်ငံတွင် သင်ကြားမှုများရှိရာ (စာရင်းကိုင်သင်တန်း စသည်တို့ကို) ပညာရပ်တစ်ခုခုတွင်ကုန်စင်အောင် သင်သွားပါဦး။ မြန်မာနိုင်ငံတွင် သင်ကြားလျှင်ရနိုင်ပါလျက် တခြား သွားရောက်သင်ကြားမှုသည် မသင့်တော်ပါ။

ထိုင်းနိုင်ငံတွင် စတင်းဖို့ကောလိပ် ရှိပါသည်။ ယင်းကျောင်းကိုယခုအခါ FMI တာဝါတွင် သွားရောက်တက်ပါ။ အခြား ဂျပန်နိုင်ငံမှလာရောက်ဖွင့်လှစ်သော မြေနီကုန်း၊ ယုဇနပလာဇာ အပေါ်ထပ်ရှိ LoGo ဂျပန်သင်တန်းကျောင်း စသည်ဖြင့်ရှိပါသည်။ ယင်းပညာရပ်များကို တတ်ပြီဟုဆိုပါက နိုင်ငံခြားသို့ ပညာဆက်လက်သင်ကြားရန်

ကျွန်တော်တို့ အားပေးပါသည်။ မည်သည့်နိုင်ငံတွင် ပညာသွားရောက် သင်ကြားလိုသနည်း။ သွားရောက်သင်ကြားခွင့်ရအောင် လူငယ်တိုင်း အား ကျွန်တော် ကူညီပါမည်။ ထိုင်းနိုင်ငံတွင် စတင်းဖို့ကောလိပ်/ အေဘက်ဘူမိဘောတက္ကသိုလ်၊ ကဆေးပ် စိုက်ပျိုးရေးတက္ကသိုလ် စသည်တို့ များစွာရှိပါသည်။ မလေးရှား၊ ပီနန်၊ စင်ကာပူ၊ ကိုရီးယား၊ ဂျပန်၊ အမေရိကန် စသည့်နိုင်ငံများတွင် ဆက်လက်ပညာဆည်းပူး စရာ ကျောင်းများ တစ်ပုံတစ်ပင်ရှိပါသည်။ အဆင့်မြင့် နည်းပညာ များကို မြန်မာလူငယ်များမှ မသင်လျှင် ဘယ်သူတွေ မြန်မာနိုင်ငံ အတွက် သင်ကြပါမည်နည်း။ လူငယ်များ အဆင့်မြင့်နည်းပညာများ ကို တတ်နိုင်ပါက ကမ္ဘာသို့ ထွက်၍သင်သင့်ပါ၏။

သို့သော် နိုင်ငံခြားသွားခြင်းသည် အမေ့အိမ်သို့ပြန်ခြင်းမဟုတ်ပါ။ **ထို့ကြောင့် နိုင်ငံခြားသွားသူတိုင်း ကိုယ်စိတ်နှစ်ပါး ကြံ့ခိုင်မှုရှိရ ပါမည်။ နိုင်ငံခြားပညာ သွားရောက်သင်ကြားလိုသော လူငယ်များ ဖွဲ့လုံ့လဝီရိယရှိရပါမည်။ စိတ်ကောင်းစေတနာကောင်း ရှိရပါမည်။ အကြော်၊ ဆေးလိပ်ကင်းသူ၊ အပျော်အပါးကင်းသူဖြစ်ရပါမည်။ မြိုးခြံ ချွေတာမှုရှိသူဖြစ်ရပါမည်။ နိုင်ငံချစ်စိတ်၊ လူမျိုးချစ်စိတ်ရှိဖို့လည်း လိုပါသည်။** နိုင်ငံခြားသို့ သွားရောက်သင်ကြားပြီး ထိုပညာဖြင့် အမိမြန်မာနိုင်ငံ ဖွံ့ဖြိုးအောင်ပြုလုပ်ရန် ရည်ရွယ်ရင်းများ ရှိရပါမည်။ ထို့အပြင် နိုင်ငံခြားသွားမည့်သူတိုင်း ကျန်းမာရေးကောင်းမွန်သူ ဖြစ်ရ ပါမည်။ နိုင်ငံခြားသို့မသွားမီ အနည်းဆုံး ခြောက်လခန့် အလေးမ,ခြင်း၊ ဘက်တမင်တန်ရိုက်ခြင်း၊ အပြေးကျင့်ခြင်း၊ ရေကူးခြင်း စသည့် အားကစားများကို ပြုလုပ်၍ ကိုယ်လက်ကြံ့ခိုင်အောင် ပြုလုပ်သွားဖို့

ိုအပ်ပါ၏။ နိုင်ငံခြားသွားမည့်သူသည် မြန်မာထမင်းဟင်း ကောင်းစွာ
က်ပြုတ်တတ်ရပါမည်။ မြန်မာနိုင်ငံမှထွက်မည့် လူငယ်တစ်ဦးသည်
နည်းဆုံး ကိုယ်အလေးချိန် ပေါင် ၁၃၀ မှ ၁၅၀ အထိ ရှိသင့်ပါ၏။
ငံခြားတွင် ဆေးကုသမှုစရိတ်က အလွန်မှကြီးသည်။ ထိုင်းနိုင်ငံတွင်
ားတစ်ချောင်းစိုက်ရန် ကုန်ကျစရိတ်သည် ရန်ကုန်၊ ဗန်ကောက်
ယာဉ်စရိတ်ထက် ပိုများသောကြောင့် ထိုင်းနိုင်ငံရှိ မြန်မာများ
ကုန်တွင် လာရောက် သွားနုတ်ကြပါသည်။

- တကယ်လည်း ပညာသင်ကြားလိုသည်။
- မြန်မာနိုင်ငံတွင်လည်း တတ်သင့်သောပညာ တတ်အပ်သော ပညာရပ်များ သင်ကြားပြီးပြီ။
- နိုင်ငံခြားသို့သွားရန် ကိုယ်စိတ်နှစ်ပါးလည်း ကြံ့ခိုင်မှုရှိပြီဟု ဆိုပါက နိုင်ငံတကာတွင် ပညာသွားသင်ပါ။ ပညာသင်သင့်ပါသည်ဟု အကြံပြု ဖြေကြားအပ်ပါသည်။ ထို့နောက် နိုင်ငံတကာမှ တတ်မြောက်လာပြီးသော အဆင့်မြင့်နည်းပညာအရပ်ရပ်ဖြင့် နိုင်ငံဖွံ့ဖြိုးမှုတည်ဆောက်ရာတွင် ပါဝင်အသုံးပြုသင့်ပါသည်။

◆

## ရေရှည်ထိခိုက်မှု

ကျောင်းသားတစ်ဦး၏ စာမေးပွဲတွင်ရရှိသော အမှတ်များ သည် ထိုကျောင်းသား၏စွမ်းရည်ကို အမှန်တကယ် ပြဆိုမှု ထက် မပိုသင့်ပါ။ ပိုနေပါက ထိုကျောင်းသားရော၊ မိဘများ ရော၊ ထိုပညာရေးစနစ်နှင့် ထိုသို့သောလူငယ်များရှိသည့် နိုင်ငံပါ ရေရှည်တွင် ထိခိုက်နိုင်ပါသည်။

## အခန်း (၉)

# ကျောင်းစာတော်အောင် ဘယ်လိုလုပ်ရမလဲ။ အဲဒီအတွက် ကျွန်တော် သောကရောက်နေပါတယ်

**မေး** ။ ။ ကျွန်တော် စာတော်ချင်ပါတယ်။ ဒါကြောင့် စာလည်း ကြိုးစားပါတယ်။ ကြိုးစားတဲ့အခါမှာ ကြိုးစားတဲ့ ကျေးဇူး ကိုလည်း ခံစားရပါတယ်။ ဒါပေမယ့် ကျွန်တော် စာအတော်ဆုံးဖြစ်အောင် လုပ်ချင်တယ်။ စာအတော်ဆုံးဖြစ်အောင် ကြိုးစားရာမှာ အကန့်အသတ် တွေ တားဆီးမှုတွေ ရှိတယ်ဆိုတာလည်း အမှန်ပါပဲ။ ဥပမာ ကျွန်တော့်ငွေ တွေ ပုံအောပြီး ကျူရှင်ယူနိုင်မှ ယူနိုင်ပါမည်။ သာမန်စည်းကမ်းဘောင် ထဲကပဲ စာတော်အောင် အကြံပေးပါခင်ဗျား။

မောင်ထွန်းလူ (ကျောက်ပန်းတောင်း)

**ဖြေ** ။ ။ ကျောင်းသားငါးဦးအား "သားတို့ ဘာသိချင်ပါသလဲ" ဟု မေးသောအခါ ကျောင်းသားငါးဦးစလုံးက "ကျွန် တော်တို့ ကျောင်းစာပိုတော်အောင် ဘယ်လိုလုပ်ရမလဲ...ကျွန်တော်တို့

[illegible]မတော်တာ၊ အဆင့်နည်းနည်းပဲရတာ၊ စာမေးပွဲမှာ ဂုဏ်ထူး [illegible]တဲ့ကိစ္စဟာ စိတ်အပူပင်ရဆုံးကိစ္စပါပဲ။ အဲဒီမေးခွန်းအတွက် အဖြေရှိရင် ဖြေပေးပါ"ဟု ဆိုပါသည်။

ကျောင်းသားများလောကတွင် စာတော်တာ မတော်တာ၊ အဆင့်ရတာ မရတာ၊ ဂုဏ်ထူးရတာ မရတာဆိုသည့်ကိစ္စတို့သည် များစွာသော အဓိပ္ပာယ်များကို ဆောင်နေသည်ကား အမှန်ပင်ဖြစ်၏။ ကျောင်းသားများအားလုံး စာတော်လိုကြသည်။ အဆင့်ကောင်းကောင်းမှ အောင်လိုကြသည်။ ဂုဏ်ထူးများများ ရယူလိုကြသည်။

အဘယ်ကြောင့် ကျောင်းသားများ အဆင့်ကောင်းကောင်း ရယူလိုကြသနည်းဟုဆိုပါက ထိုကိစ္စသည် မိမိတို့ဘဝတွင် အလုပ်ကောင်းကောင်းရရှိခြင်း မရရှိခြင်း၊ မိမိတို့ဘဝ အသက်မွေးဝမ်းကျောင်း၊ တက္ကသိုလ်များသို့ ဝင်ခွင့်ရရှိခြင်း မရရှိခြင်း၊ မိဘများ၏ ချီးကျူးခြင်းကို ရရှိခြင်း, မရရှိခြင်း၊ လူကြီးမိဘတို့က ပြစ်တင်ကြိမ်းမောင်းခြင်းကို ခံရခြင်း, မခံရခြင်း စသော ကွာခြားမှုများနှင့် ဆက်စပ်နေသောကြောင့် ဖြစ်ပါသည်။

Measurement and Evaluation in School စာအုပ်၌ စာမေးပွဲအောင်မှတ်များသည် ကျောင်းသားတစ်ဦး၏ အားသာချက်နှင့် အားနည်းချက်တို့ကို ဖော်ပြနိုင်ပြီး ပညာဆက်လက်သင်ကြားစေရန် အတွက် အောင်မှတ်သည် တွန်းအားပေးနိုင်သည်ဟု ရေးသားထားပါသည်။ စာမေးပွဲများ၌ ကျောင်းသားတစ်ဦးရရှိသောအမှတ်သည် မိဘများက ကျောင်းတွင် မိမိတို့သား မိမိတို့သမီး မည်သို့ရှိသည်ကို ခန့်မှန်းနိုင်အောင် စွမ်းအားများလည်း ပေးပါသည်ဟု ဆိုပါ၏။

ကျောင်းစာ အဆင့်မြင့်မြင့်မားမားရလိုသောစိတ်သည် ကျောင်း
းများအား သောကစိတ်ကို ဖြစ်စေပါ၏။ ထို့ပြင် ကြောက်စရာ
ကောင်းသော ပြိုင်ဆိုင်မှုကိုလည်း ဖြစ်စေပါသည်။

ယင်းကိစ္စနှင့်ပတ်သက်၍ စာအုပ်တစ်အုပ်တွင် အမှတ်ကောင်း
ကောင်းရမှ ကောလိပ်သို့ တက်ခွင့်ရမည့်ကျောင်းသားများသည် ပညာ
ပ်များကို လေ့လာရာတွင် တတ်မြောက်သိနားလည်ဖို့ထက် စာမေးပွဲ
အမှတ်များများရရှိရေးနှင့် အဆင့်ကောင်းကောင်းရရေးအတွက်သာ
ပြိုင်လိုစိတ်များကို ပို၍ ပွားများနေစေ၏ဟု ဆိုပါသည်။ ထိုစိတ်
ထ်၏ အကျိုးဆက်ကို ဒေါက်တာဝီလျံဂလက်ဆာက ရှင်းပြရာတွင်
စိတ်ဓာတ်သည် ကျောင်း၌ စာသင်ကြားရာတွင် စာမေးပွဲမှာ
ည်သည့်အပုဒ် ပါလာမည်ကိုသာ စိတ်စောလျက်ရှိပြီး ထိုအကြောင်း
ရာကို ဘယ်လိုရေးချရမည်ဆိုသည့်ကိစ္စကိုသာ ကျောင်းသားများ
ချင် လုပ်ချင်စိတ်ကို ပွားများစေခဲ့၏ဟု ဆိုပါသည်။

စာမေးပွဲ၌ အောင်မှတ်ကို ရရှိအောင်ပြုလုပ်ရာတွင် တွေးတော
င်း၊ ခေါင်းထဲ၌ သိပ်နေအောင် စုပုံမှတ်သားခြင်း၊ နည်းမျိုးစုံဖြင့်
ချခြင်းတို့ကိုသာ စိတ်စောနေသူတစ်ဦးသည် သူ့ဘဝတွင် ဘယ်
ာအခါမှ တွေးခေါ်ဆင်ခြင်မှုကို လေ့လာတတ်မြောက်နိုင်မည်
တ်ဟု အချို့က ဆိုပါသည်။

ထို့ကြောင့် ကျောင်းသားတစ်ဦးသည် မိမိဖခင်၏ လုပ်ငန်းခွင်မှ
ရင်းတစ်ခုကို ကိုက်ညီအောင် ရေးဆွဲနိုင်ခြင်းမရှိဘဲ သင်္ချာတွင်
မှတ်ကောင်းကောင်းရရှိနေခြင်းသည် ဘာအကျိုးရှိမည်နည်း။ ဘာ
ဓိပ္ပာယ်ရှိမည်နည်း။

ထို့ကြောင့် ကျောင်းသားတိုင်းသည် တစ်နံပါတ်အချက်အနေဖြင့် အမှတ်များများရလျှင် ပြီးရောဆိုသည့် ဖြတ်လမ်းနည်းကို စွန့်လွှတ်ဖို့ လိုပါ၏။ **ကျောင်းသားတစ်ဦး စာမေးပွဲတွင်ရရှိသော အမှတ်များသည် ထိုကျောင်းသား၏ စွမ်းရည်ကို အမှန်တကယ် ပြဆိုမှုထက် မပိုသင့်ပါ။ ပိုနေပါက ထိုကျောင်းသားရော၊ မိဘများရော၊ ထိုပညာရေးစနစ်နှင့် ထိုသို့သော လူငယ်များရှိသည့်နိုင်ငံပါ ရေရှည်တွင် ထိခိုက်နိုင်ပါသည်။**

ကျောင်းသားများ ကျောင်းစာညံ့ရသည့်ကိစ္စများနှင့် ပတ်သက်၍ သူ၏သားများနှင့် သူတို့၏ သူငယ်ချင်းများအတွင်း လေ့လာရာတွင် သူတို့သည် ဘယ်သူကမှ ကျွန်တော်တို့ ညံ့တာပါဟု ဝန်ခံသူမရှိဘဲ မေးခွန်းတွေက ခက်လို့၊ ဆရာက အခြေ့ားနဲ့ မေးခွန်းထုတ်လို့၊ ကံခေလို့၊ ရာသီဥတုမကောင်းလို့၊ စာမေးပွဲဖြေခါနီး အဖေက ခိုင်းလို့၊ စိတ်ညစ်စရာပေါ်လာလို့ဟူ၍သာ ဖြေဆိုကြပါသည်။ မိခင်တစ်ဦးက ဆိုဖူးပါ၏။

**တကယ်တော့ ကျောင်းသားများ အဆင့်နိမ့်ရခြင်း၏ အဓိကအကြောင်းရင်းမှာ ပျင်းရိခြင်းနှင့် ကျောင်းစာတွင် စိတ်ဝင်စားမှုမရှိခြင်းသည် အဓိကဖြစ်ပါ၏။ ယင်းနှစ်ခုစလုံးကလည်း ဆက်စပ်နေပါ၏။** အဆင့်မြင့်မြင့်ရရှိသော ကျောင်းသားများသည် မိမိတို့အောင်မြင်မှုအတွက် မိမိတို့ကိုယ်တိုင် တာဝန်ယူသူများဖြစ်သည်။ ထိုစာသားကို ပြောင်းပြန်ဆိုရသော် မိမိတို့အောင်မြင်မှုအတွက် မိမိတို့ကိုယ်တိုင် တာဝန်ယူသော ကျောင်းသားများသည် အမှတ်ကောင်းကောင်းရရှိကြသည်ဟု ဆိုရမည်ဖြစ်ပါ၏။

**ပန်းမျိုးတစ်ရာစာပေ**

တော်သောကျောင်းသားများအား ဘာပြုလို့ သားတို့တော်ကြတာလဲလို့ မေးသောအခါ တစ်ဦးက…"ကျွန်တော်တော့ ကိုယ့်ကိုယ်ကို တိုက်တွန်းနှိုးဆော်နေတာဟာ စာတော်တဲ့အချက်ဖြစ်စေတာပါပဲ" ဟုဆိုသည်။

အခြားတစ်ဦးက"ကျွန်တော်က ကျွန်တော်လုပ်ရမယ့် တာဝန်တွေကို စာရင်းချပြီး အချိန်ကို ခွဲဝေပြီး လုပ်ဆောင်တာဟာ ကျောင်းစာကို ကျက်ဖြစ်စေတာပါပဲ"ဟုဆိုသည်။

နောက် ကျောင်းသားတစ်ဦးက ကျွန်တော်က "ရည်မှန်းချက်ထားပြီး လုပ်ဆောင်လို့ပါ"ဟု ဆို၏။

မှန်ပါသည်။ ကျောင်းစာတော်ဖို့ကိစ္စသည် ကျောင်းသားတစ်ဦး မတတ်နိုင်သည့်ကိစ္စပေါ်တွင် မူတည်၍မနေပါ။ ထိုကျောင်းသားပေါ်တွင်သာ မူတည်နေပါ၏။ ကျောင်းသားတစ်ဦးသည် ပညာကို မိမိ မည်မျှအထိ လိုလားသည်ဆိုသောအချက်ပေါ်တွင် ပို၍ မူတည်ပါသည်။

လူငယ်တစ်ဦးကမူ မိမိသည် အမှန်တကယ် ကြိုးစားခဲ့ပါလျက် အောင်မြင်မှုမရရှိခြင်းသာဖြစ်သည်ဟု ရိုးသားစွာ ယုံကြည်ပြောဆိုခဲ့ပါသည်။ လွန်ခဲ့သည့် နှစ်အနည်းငယ်ခန့်က အမေရိကန်ပြည်ထောင်စု၏ Stamford University မှ သုတေသီများက ကျောင်းသားပေါင်း ၇၇၀ ခန့်ကို ကျောင်းစာနှင့်ပတ်သက်၍ ယင်းတို့ မည်မျှ ကြိုးစားလုပ်ဆောင်လျက်ရှိသည်ကို မေးမြန်းလေ့လာမှုပြုခဲ့ပါသည်။ ဆန်းကြယ်သည်မှာ အဆင့်နိမ့်သော ကျောင်းသားအချို့သည် သူတို့သည် မည်သူနှင့်မျှမတူအောင် ကြိုးစားခဲ့ကြသည်ဟု မှတ်ယူထားကြသည်ကို တွေ့ခဲ့

ရရှိခြင်းမြင့်မားသည်။ သို့သော် ယင်းလူငယ်များ ကျောင်းစာကျက်မှတ်ရေးသောပုံကို အသေးစိတ် မေးမြန်းကြည့်သောအခါ သူတို့သည် ထူးချွန်သော ယင်းတို့၏ သူငယ်ချင်း ကျောင်းသူ ကျောင်းသားများနှင့် နိုင်းစာပါက ကြိုးစားမှုများစွာ လျော့နည်းနေကြောင်းဟု တွေ့ရှိရသည်ဟု ဆိုပါသည်။

## အချိန်ပေးပါ

တကယ်တော့ ကျောင်းသင်ခန်းစာများနှင့် ပတ်သက်၍ တစ်ခါတစ်ရံတွင် ကျောင်းသားတစ်ဦးသည် သူ့ကိုယ်သူ အများကြီး ကျက်မှတ်ထားသူဟု ထင်မှတ်နေတတ်သည်။ Journal of Educational Psychology တွင် ပါရှိသော ဆောင်းပါးတစ်စောင်ထဲ၌ ကျောင်းသင်ခန်းစာများကို အချိန်တိုးမြှင့်၍ လုပ်ကိုင်ရုံမျှဖြင့် ကျောင်းသားတစ်ဦး၏အဆင့်သည် တိုးတက်လာနိုင်သည်ကို တွေ့ရသည်ဟု ရေးသားထားပါ၏။ ကျောင်းသားတစ်ဦးသည် တစ်ပတ်လျှင် တစ်နာရီမှ သုံးနာရီအတွင်း အိမ်စာများကို မှန်မှန်လုပ်ကိုင်သွားပါက အဆင့်နိမ့်ကျ ကျောင်းသားဘဝမှ အလယ်အလတ် ကျောင်းသားအဆင့်သို့ တိုးတက်သွားနိုင်မည်မှာ အမှန်ဖြစ်သည်ဟု ထိုဂျာနယ်က ဆိုပါသည်။

ကျောင်းသားတစ်ဦးသည် မိမိ၏အာရုံကို ရုပ်မြင်သံကြားနှင့် အခြားအရာများက ကျောင်းစာမလုပ်ဖြစ်အောင် ဆွဲဆောင်နေကြသည် ဆိုလျှင် ထိုကျောင်းသားသည် မိမိကိုယ်မိမိ ကြပ်ကြပ်မတ်မတ် စည်းကမ်းသတ်မှတ်ကိုင်တွယ်ဖို့ လိုပါသည်။ အရေးကြီးသည်မှာ

ရုပ်မြင်သံကြားဖန်သားပြင်ပေါ်တွင် အိမ်စာမပြီးမချင်း သင့်ကိုမကြည့်ဟူသောစာတန်း ကပ်ထားလိုက ကပ်ထားရန် အကြံပေးလိုပါသည်။

**စာကျက်ဖို့နေရာ**

ကျောင်းသားများအတွက် စာကျက်မှတ်လေ့လာရန် သတ်မှတ်ထားသောနေရာ သီးခြားရှိလျှင် ထိုအရာသည် အကျိုးများစေနိုင်ပါ၏။ ကျောင်းသားတစ်ဦးသည် အခြားသူနှင့် အခန်းတစ်ခန်းထဲတွင် မျှနေရသည်ဆိုလျှင် သို့တည်းမဟုတ် မိမိအိမ်သည် ကျဉ်းမြောင်းသည်ဆိုပါလျှင် စာကျက်မည့်နေရာကို ဖြစ်နိုင်သလို ကြံဆဖန်တီးဖို့လိုပါသည်။ မီးဖိုချောင် သို့မဟုတ် အခြားတစ်ဦး၏ အခန်းကို ညစဉ်တစ်နာရီမျှဖြစ်စေ ခေတ္တအသုံးပြုဖို့ စီစဉ်ခြင်းမျိုးလည်း ပါဝင်ပါသည်။ နောက်ဆုံး မည်သို့မျှမဖြစ်နိုင်လျှင် ပြည်သူ့စာကြည့်တိုက် သို့မဟုတ် သူငယ်ချင်းတစ်ဦး၏အိမ်တွင် စီမံနိုင်ပါသည်။ ဆိုလိုသည်မှာ စာကျက်ရန် နေရာရှိဖို့ လိုပါသည်။

ဖြစ်နိုင်လျှင် သင့်စာအုပ်စာတမ်းများကို ဖြန့်ခင်းထားနိုင်သောနေရာမျိုးရှိသည့် စာရေးစားပွဲခုံ သို့မဟုတ် စားပွဲတစ်ခုကို အသုံးပြုနိုင်ပါက ပိုကောင်းသည်။ စာကြည့်နေရင်း ထ၍ မယူရအောင် အထောက်အပံ့ပစ္စည်းများဖြစ်သည့် ခဲတံ၊ စာရွက်၊ စာအုပ် စသည်တို့ကို သင်နှင့်နီးစပ်ရာ မလှမ်းမကမ်းနေရာတွင် ထားပါ။ ရုပ်မြင်သံကြားစက်၊ ရေဒီယိုတို့ကို ဖွင့်ထားခြင်းသည် အာရုံစိုက်မှုကို ပျက်ပြားစေတတ်ပါသည်။ ထိုနည်းအတူ တယ်လီဖုန်းနှင့် ဧည့်သည်များကလည်း အနှောင့်အယှက်ဖြစ်စေနိုင်ပါသည်။

**ပန်းမျိုးတစ်ရာစာပေ**

## လုံလောက်သောအလင်းရောင်

ထို့နောက် သင်စာကြည့်ရာနေရာတွင် လုံလောက်သောအလင်းရောင်ရှိဖို့ လိုအပ်ပါသည်။ အလင်းခါတ်ကောင်းကောင်းရရှိခြင်းသည် သင့်အား စာကြည့်ရာတွင် ပင်ပန်းမှုကို လျော့နည်းစေပြီး သင့်မျက်လုံးများကိုလည်း ကာကွယ်ပေးနိုင်ပါသည်။ ဖြစ်နိုင်ပါက အခန်းတွင် သို့လေဝင်ပေါက်၊ လေထွက်ပေါက်နှင့် အပူချိန်ကိုလည်း သတိပြုစီမံဖို့ လိုအပ်ပါသည်။ အေးမြသောအခန်းတစ်ခန်းသည် ပူအွေ နေ့သော အခန်းတစ်ခန်းထက် စာကြည့်ရာတွင် စိတ်ကို ပို၍ တက်ကြွစေပါသည်။

ကျောင်းသားတစ်ဦးသည် စာကြည့်လိုစိတ်မရှိဘူး ဆိုပါက မည်သို့ ပြုလုပ်ပါမည်နည်း။ ဘဝသည် ကိုယ့်စိတ်ကူးလေးနှင့်ကိုယ် နေထိုင်ခွင့်ကိုပေးတတ်သောသဘာဝ သိပ်မရှိပါ။ အလုပ် လုပ်ကိုင်လာရသောအခါ၌လည်း သင့်၌ ဆန္ဒရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ နေ့စဉ် လုပ်ကိုင်ရမည်သာဖြစ်သည်။ ထို့ကြောင့် ကျောင်းမှ ပေးလိုက်သော အိမ်စာများနှင့် ပတ်သက်၍လည်း မိမိကိုယ်ကို စည်းကမ်းလေ့ကျင့်နေခြင်းဟူ၍လည်းကောင်း၊ နောင် အလုပ်လုပ်ရန်အတွက် အလေ့အကျင့်ပြုလုပ်နေခြင်းဟူ၍လည်းကောင်း ရှုမြင်ရန် လိုသည်။ အားလုံး နည်းလမ်းတကျဖြစ်ဖို့ လိုပါသည်။ ပညာသင်ကြားရေး နယ်ပယ်မှ ပညာရှင်တစ်ဦးက "ဖြစ်နိုင်လျှင် စာပေကျက်မှတ်လေ့လာခြင်းသည် တစ်နေရာတည်း အချိန်တစ်ချိန်တည်း၌ နေ့စဉ် မှန်မှန် ပြုလုပ်ဖို့လိုသည်။ ဤနည်းဖြင့် ပုံမှန်လေ့လာခြင်းသည် အလေ့အကျင့်တစ်ခုလို ဖြစ်လာမည်။ စာကျက်ရန် ဆန္ဒကျင်နေသော

စိတ်ကိုလည်း ဆန့်ကျင်စိတ်လျော့နည်းအောင် ပြုလုပ်လိမ့်မည်ဖြစ်ပါသည်"ဟု ဆိုခဲ့ပါသည်။

စာကျက်မှတ်မှုနှင့်ပတ်သက်လျှင် မိမိ ဘာသာရပ်များကို ကျက်မှတ်မည်ကို ပထမ စီစဉ်ဖွဲ့စည်းမှုပြုပါ။ ဘာသာရပ်နှစ်ခုကို တစ်ဆက်တည်း လေ့လာခြင်းအား ရှောင်ပါ။ ဘာသာရပ်တစ်ခုနှင့် တစ်ခုအကြား အကူးအပြောင်းတွင် ခေတ္တနားနေခြင်းကို ပြုလုပ်ပါ။

သို့သော် ပညာရေးတွင် ကျွမ်းကျင်သူတစ်ဦးကမူ "ကျောင်းသားကို သူကျက်မှတ်သမျှ အချက်အလက်တိုင်းသည် သီးခြားတည်မနေဘဲ အခြားသော အချက်အလက်များနှင့် ဆက်နွယ်၍နေသည်ကို သိမြင်အောင် ပြုလုပ်ပေးဖို့လိုပါသည်ဟု ဆိုပါသည်။ ထို့ကြောင့် ကျက်မှတ်သမျှကိုလည်း သင်ကျက်မှတ်ပြီးသည်နှင့် ဆက်နွယ်မှတ်သားဖို့ လိုပါသည်။ မိမိလေ့လာကျက်မှတ်သမျှ၏ လက်တွေ့အသုံးတန်ဖိုးကိုလည်း ရှာဖွေသင့်ပါသည်။ ဒါမှ ပို၍မှတ်မိလွယ်ပါသည်"ဟု ဆိုပါ၏။ အကြောင်းအရာများကို ဆက်စပ်မှတ်သားရန်ဖြစ်ပါသည်။

## နောက်တစ်ပတ် စာမေးပွဲရှိတယ်

ဤစကားက မိမိကို ကြောက်ရွံ့ထိတ်လန့်ခြင်း မဖြစ်ပါစေနှင့်။ ပထမဦးဆုံး ဆရာထံမှ မည်သည့်ဘာသာအတွက် စာမေးပွဲကျင်းပမည်ကို မေးရပါမည်။ မည်သည့်ပုံစံမျိုးမေးမည်ကိုလည်း ဆရာထံမှ ကြိုတင်သိရှိထားရန် လိုပါသည်။ စာစီစာကုံးမျိုးမေးမှာလား။ အများထဲမှ အမှန်ကို ရွေးချယ်ခြင်းမျိုးကို မေးမှာလား စသည်ဖြင့် ခွဲခြားနားလည်အောင် ကြိုးစားဖို့လိုပါ၏။ ဤမျှလောက် သိထားခြင်းဖြင့်

စာမေးပွဲကို လန့်ကြောက်မှု အတော်အတန်လျော့ပါးနိုင်ပါ၏။ ထို့နောက် စာမေးပွဲမတိုင်မီ အကြိုရက်များအတွင်း စာမေးပွဲ၌ ပါနိုင်သည်တို့ကို မှန်းဆကြည့်ပါ။ ဆရာ၏စကားထဲ၌ ဒီအချက်က အလွန်အရေးကြီး တယ်ဆိုသည့်စာမျိုး၊ ဒါကို မှတ်မိအောင် သေသေချာချာလုပ်ပါဆို သည့်စကားမျိုးသည် စာမေးပွဲ၌ ထည့်မေးမည့် အရိပ်အမြွက်များ ဖြစ်သည်ဟု Senior Scholastic မဂ္ဂဇင်းက ဖော်ပြခဲ့ဖူးပါသည်။ ထို့နောက် သင့်မှတ်စုများ၊ ပြဋ္ဌာန်းစာအုပ်များ၊ အိမ်စာများကို ပြန်၍ သုံးသပ်ကြည့်ပါ။ အထူးသဖြင့် မိမိက အထူးကြိုးစားမှုရှိပါလျက် စာမေးပွဲ ရှုံးသွားပါက စိတ်ထိခိုက်မှုဖြစ်ကာ မိမိကိုယ်မိမိ လေးစားမှု ကျဆုံးသွားနိုင်ပါ၏။ ငါတော်တော်ညံ့ပါလားဟု တွေးထင်သွားတာ မျိုး ဖြစ်သည်။ သို့သော် စာမေးပွဲတစ်ခု၌ ကျရှုံးခဲ့မှုကြောင့် ဖြစ်ပေါ် လာသော ရှက်စိတ်က အမှားတို့ကို ပြန်လှန်လေ့လာစေပြီး တိုးတက် အောင် ပြုလုပ်စေနိုင်မည်ဆိုပါက ထိုကျရှုံးမှုသည် အဖိုးတန်သည်ဆို သောအချက်ကိုလည်း ကျောင်းသားတိုင်း လေးလေးနက်နက် မှတ်သား နာယူစေလိုပါသည်။

ပညာရည် တိုးတက်မှုမှတ်တမ်းတွင် အမှတ်များ ညံ့ဖျင်းနေမှု ကြောင့် စိတ်ပျက်နေသော မိဘများကို မည်သို့ ရင်ဆိုင်မည်နည်း။ ဤကိစ္စသည် အရေးကြီးလှပါသည်။ ရင်မဆိုင်ရဲရာမှ ကျောင်းသား များသည် လွဲမှားစွာဖြင့် ဥာဏ်နီဥာဏ်နက်များကိုသုံးကာ ထွက်ပေါက် ရှာသောအဖြစ်များသို့လည်း ရောက်ရှိသွားစေခြင်းသည် ကျောင်းသား ရော မိဘများနှင့် အားလုံးအတွက်ပါ အကျိုးမဲ့စေသောအရာ ဖြစ်ပါ ၏။

ကျောင်းသားတစ်ဦးက မိမိ အမှတ်ညံ့နေသောလများတွင် လုပ်ဆောင်ပုံနှင့်ပတ်သက်၍ "ကျွန်တော်လုပ်တာကတော့ ဒီကိစ္စကို မေမေ့ကိုပြဖို့ နောက်ဆုံးအချိန်အထိ အချိန်ဆွဲထားပါတယ်။ နောက်တစ်နေ့မနက် သူ အလုပ်သွားခါနီးကျမှ ကပ်ပြီးပြလိုက်။ ပြီးတော့ အမေ ဒီနေရာမှာ လက်မှတ်ထိုးရမယ်လို့ပဲ ပြောလိုက်ပါတယ်။ အဲဒီအချိန်မှာ အမေက ကျွန်တော်နဲ့ အရှည်ကြီးပြောနေဖို့အချိန်လည်း မရတော့ပါဘူး"ဟု ပြောပါသည်။ အချို့လူငယ်များဆိုလျှင် သူတို့၏ မှတ်တမ်းများပေါ်တွင် လက်မှတ်တုများပင် ထိုးခဲ့ကြသည်ဟု ဆိုပါသည်။

တကယ်တော့ ကျောင်းသားတစ်ဦး ကျောင်းစာအခြေအနေ မည်သို့ရှိသည်ကို မိဘများ သိသင့်သိထိုက်သည်မှာ အမှန်ဖြစ်သည်၊ အကယ်၍ မိမိ၏ အမှတ်လျော့နည်းမှုသည် စည်းကမ်းတင်းကျပ်ဖို့လိုသောကိစ္စဖြစ်ပါက မိဘများဘက်က ပြောဆိုဆုံးမ သတိပေးရန် လိုအပ်သည်မဟုတ်ပါလော။ ထို့ကြောင့် မည်သို့ပင်ဖြစ်စေ မိဘများနှင့်ဆက်ဆံရာတွင် ကျောင်းသားများသည် အမိကအားဖြင့် ရိုးသားဖို့ လိုအပ်ပါသည်။ ကျောင်းတွင် ကျောင်းသားတစ်ဦးရရှိသောအဆင့်သည် ကျောင်းသားဘဝ၌ အရေးပါသည်မှာ မှန်သော်လည်း အဆင့်အတန်း အမှတ်တို့သည် ထိုကျောင်းသား၏တန်ဖိုးကို အပြီးပိုင် အဆုံးအဖြတ်ပေး သတ်မှတ်နိုင်သောအရာများ မဟုတ်ကြပါ။

ကျောင်းသားလူငယ်တိုင်းသည် ကျောင်းတွင် ပညာသင်နေရခိုက် အချိန်များကို အကောင်းဆုံး အသုံးချနိုင်အောင် တတ်နိုင်သမျှ ကြိုးစားရန် လိုအပ်ပါသည်။ ထိုကြိုးစားမှုသည် မိမိကြိုးစားသလောက် မိမိ

ခံစားရမည်။ ထိုခံစားမှုအပေါ် မိဘများလည်း ဝမ်းသာကြမည်ဆိုသော ကိစ္စမှာ မလွဲကေန် မှန်ကန်သောကိစ္စ ဖြစ်ပါသည်။

ထို့ကြောင့် နောက်ဆုံးအနေနှင့် ဖြေကြားရသော်–

၁။ ကျောင်းသားဘဝတွင် စာတော်ဖို့ကိစ္စသည် အရေးကြီးသော ကိစ္စတစ်ရပ်ဖြစ်ပါသည်။

၂။ စာတော်ရန် ကျောင်းသားများ စာတွင် စိတ်ဝင်စားမှုရှိရမည်။ အချိန်မှန် စာကျက်ရမည်။ ကျောင်းသားများသည် စာကျက်ရာတွင် လေဝင်လေထွက်ကောင်း၍ အလင်းရောင်ရရှိသော နေရာတစ်ခု သီးသန့်ရှိသင့်သည်။

၃။ မိမိအတန်းထဲ၌ အဆင့်နိမ့်နေလျှင် မိဘများကို တင်ပြ၍ အဆင့်မြင့်ရေးတွက် ဝိုင်းဝန်းစဉ်းစား အဖြေရှာရမည်။ ကျောင်းသားများသည် မိဘများအပေါ် လုံးဝ ရိုးသားသင့်သည်။

၄။ ကျောင်းသားများ စာကျက်နည်း မှန်ကန်ရမည်။

၅။ စာမေးပွဲ၌ ဂုဏ်ထူးနည်းခြင်း၊ အဆင့်ကျခြင်းသည် ကျောင်းသားဘဝ၌ ဆုံးရှုံးမှုဖြစ်သော်လည်း ဘဝတစ်ခုလုံးကို အပြီးတိုင် အဆုံးအဖြတ်ပေးမည့်ကိစ္စမဟုတ်ကြောင်း စွဲမြဲစွာ မှတ်သားထားရန် လိုသည်။

၆။ ကျောင်းသားတိုင်း အဆင့်တက်အောင် မိမိတို့ဟာမိမိတို့ ကြံဆောင်၍ရသည်ဟုဆိုသောအချက်ကိုလည်း ကျောင်းသားများ လက်ခံထားရန်လို၏။

**ပန်းမျိုးတစ်ရာစာပေ**

၇။ ကျောင်းတွင် အဆင့်နိမ့်၍ သောကရောက်ရကောင်းမှန်း သိခြင်းကပင်လျှင် အဆင့်မြင့်ဖို့အတွက် လမ်းစဖြစ်နေ၍ ဤဖြေကြားချက်မှ အချို့အချက်များ လိုက်နာကျင့်သုံးခြင်းဖြင့် အဆင့်တက်လာနိုင်ပါသည်။

အခြားကိစ္စတစ်ရပ်မှာ မိမိက အခြားကျောင်းတစ်ကျောင်းမှ ပြောင်းလာခြင်းဖြစ်ပါက ယခုရောက်ရှိသောကျောင်းတွင် ကျောင်းစာများ ရှေ့ရောက်နေသောကြောင့် စာမလိုက်နိုင်ရာက အဆင့်ကျမှုမျိုး ရှိနိုင်၏။ ထိုအခါ ကွာဟနေသော သင်ခန်းစာများကို သီးခြား အမြန်သင်ယူပါ။ ထိုကွာဟမှုသည် အချိန်ကြာလာသည်နှင့်အမျှ ပို၍ ပို၍ကြီးလာကာ နောက်ဆုံး လုံးဝ စာမလိုက်နိုင်သောဘဝသို့ ရောက်သွားနိုင်ပါ၏။

အခြားကိစ္စတစ်ရပ်မှာ အကြောင်းတစ်ခုခုကြောင့် မိမိသည် မိမိနားလည်မှုအဆင့်ထက် မြင့်မားသောအတန်းသို့ ရောက်နေတတ်၏။ ဆိုလိုသည်မှာ မိမိ ငါးတန်းစာသာ တတ်သော်လည်း မိမိက ခြောက်တန်းသို့ ရောက်နေတတ်၏။ ထိုအခါ စာကို မလိုက်နိုင်ဘဲရှိလာသည်။ စာမလိုက်နိုင်ခြင်းအတွက် စာတွေ မည်မျှကျက်နေစေခါမူ၊ စာကြည့်စားပွဲတွင် အချိန်ပြည့်ထိုင်နေစေခါမူ ဘာမှအကြောင်းထူးလာစရာကိစ္စမရှိ။ စာမလိုက်နိုင်ပါက သီးခြားအချိန်ပို သင်ယူ၍ စာလိုက်နိုင်အောင် မိဘများနှင့် ပူးပေါင်းကြိုးစားရန် လိုအပ်ပါ၏။

နောက် အရေးကြီးသောအချက်မှာ ကျောင်း၌ ဆရာက စာသင်နေချိန်တွင် အချိန်ပြည့် နားထောင်ပါ။ သင်ကြားမှုကို အချိန်ပြည့် မှတ်ထားပါ။ ဆရာသင်တာ နားမလည်ပါက ချက်ချင်းထ,မေးပါ။ ရှက်၍ မမေးဘဲနေတာ မဖြစ်ပါနှင့်။ ကျောင်းစာများကို နှစ်စထဲမှ

မှန်မှန်ကန်ကန် ကျက်မှတ်သွားခြင်းသည်လည်း အမှတ်လျော့နည်းစွာ ရရှိခြင်းနှင့် စာညံ့ခြင်းကိစ္စတို့ကို ကျော်လွှားနိုင်သည်ဟု ပြောကြားလိုပါ၏ ။

◆

## လောကနိယာမတရား

ပညာဆိုတာဟာ ပုဂ္ဂလိကပစ္စည်းမဟုတ်ဘူး။ အများပိုင်ပစ္စည်း ဖြစ်တယ်။ ပညာတတ်တစ်ဦးဟာ ပညာတစ်ရပ်ရပ်ကို တတ်ပြီးပြီ ဆိုရင် အဲဒီပညာနဲ့ အများကောင်းစားမှု တစ်ခုခုကိုတော့ လုပ်ကို လုပ်ရမယ်။ မလုပ်မိဘူးဆိုရင်တော့ လောကနိယာမတရားရဲ့ ဒဏ်ခတ်ခြင်းကို ခံရမှာ သေချာတယ်။

## အခန်း (၁၀)

# သမီးအမှတ်တွေက သိပ်ကောင်းနေတယ်။ ဘယ်လိုင်းလိုက်ရမလဲ။ ဆရာဝန်တော့ မလုပ်ချင်ဘူး။ ဝါသနာပါတာကတော့ ပထဝီဝင်ပါပဲ။

**မေး** ။ ။ ဆရာရှင့်...

ကျွန်မ ဆယ်တန်းစာမေးပွဲကို အမှတ်ကောင်းကောင်းနဲ့ အောင်ထားပါတယ်။ ဘယ်အသက်မွေးဝမ်းကျောင်း တက္ကသိုလ်မဆို တက်နိုင်လောက်တဲ့အမှတ် ဖြစ်ပါတယ်။ ဒါပေမယ့် ကျွန်မ ဆေးကို မသွားချင်ဘူး။ ကျွန်မ ဆရာဝန် မဖြစ်ချင်ဘူး။ အင်ဂျင်နီယာကျတော့လည်း အဲဒီအလုပ်ကို ယောကျ်ားလေးတွေလုပ်စေချင်တယ်။ ကျွန်မက ခွန်နဲ့အားနဲ့ လုပ်နိုင်မှာ မဟုတ်ဘူး။ ဝါသနာပါတာကတော့ ပထဝီဝင်နဲ့သမိုင်းပဲ။ ကျွန်မ ရ,ထားတဲ့အမှတ်နဲ့ သမိုင်း သို့မဟုတ် ပထဝီယူမယ်လို့ဆိုတော့ ကျွန်မကို ရူးနေလားလို့ပြောကြတယ်။ ကျွန်မ ဘာလုပ်ရမလဲ...။ အမေတော့ရှိတယ်။ အမေကလည်း သူ့အလုပ်နဲ့သူ ကျွန်မတို့ကို သိပ်အချိန်မပေးနိုင်ဘူး။ အမေက အစည်းအဝေးတွေနဲ့ ခရီးထွက်နေရတာနဲ့ ကျွန်မလည်း အမေ့ကို အပူမကပ်ချင်ဘူး။ အမေကတော့ သမီးကြိုက်သလိုလုပ်၊ ကြိုက်တာယူလို့

ပြောတာပဲ။ အမေကတော့ သမီးကို ဆရာဝန်တို့၊ အင်ဂျင်နီယာတို့ ဖြစ်စေချင်တာပေါ့။

နောက်ပြီး ကျွန်မက ကျောင်းဆက်မတက်ဘဲ လုပ်ငန်းခွင်ဝင်ရကောင်းမလားလို့လည်း စိတ်ကူးတယ်။ ဒီကိစ္စနဲ့ပတ်သက်ပြီး ကျွန်မ မှန်ကန်တဲ့အဖြေကို လိုချင်နေပါသည်။ သမီး အမှတ်ကောင်းသားပဲ ဆေးကျောင်းတက်ပေါ့ဆိုတဲ့ အဖြေမျိုးတော့ မလိုချင်ဘူး။ ဒါပေမယ့် ဆေးကျောင်းတက်သင့်တယ်ဆိုရင်လည်း ခိုင်ခိုင်လုံလုံ အဖြေရှိရင် ကျွန်မ တက်ပါမည်။

သဇင်ဝတ်မှုံ
ကန်တော်ကလေး။
၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ

**ဖြေ** ။ ။ ဒီကိစ္စက လူငယ်အများစုနဲ့လည်း သက်ဆိုင်တယ်။ တိုင်းပြည်ရဲ့ အနာဂတ်ဖွံ့ဖြိုးမှုနဲ့လည်း ပတ်သက်၍ ဒီကိစ္စကို ဖြေဆိုချင် ပါတယ်။

ပထမအချက်ကတော့ ၂၁ ရာစုနှစ်မှာ ပညာဟာ အရေးကြီးတယ်။ ပညာဟာ အဓိကဖြစ်လာမယ်။ ငွေတို့ မြေတို့ဟာ ပညာရဲ့ နောက်ကို ရောက်သွားမှာဖြစ်လို့ ပညာကို တန်ဖိုးထားဖို့ ရှေးဦးစွာ ပြောကြားလိုပါတယ်။ ၂၁ ရာစုမှာ သတင်းအချက်အလက် ခေတ်၊ အသိပညာစီးပွားရေး ထွန်းကားလာမှာမို့ ဘာသာရပ်ဆိုင်ရာ အတတ်ပညာတွေကို တတ်ရပါမယ်။ ၂၁ ရာစုမှာ တက္ကသိုလ်ကထွက်တဲ့ ပညာတတ်တွေဟာ တန်ဖိုးရှိလာပါမယ်။ မိဘက ကျောင်းဆက်တက်ဖို့ အခြေအနေပေးတယ်ဆိုရင် ကျောင်းဆက်တက်ဖို့ကိစ္စဟာ တစ်ခုတည်းသော ရွေးချယ်ရမယ့်လမ်း ဖြစ်ပါတယ်။

**ပန်းမျိုးတစ်ရာစာပေ**

ပညာတတ်ဖို့ဆိုရာမှာ ဘာသာရပ်ဆိုင်ရာတင်မကဘူး။ ကမ္ဘာကြီးက ကမ္ဘာ့ရွာဖြစ်လာမှာမို့ လူတိုင်း ဘာသာစကား သုံးလေးမျိုးတော့ တတ်ထားသင့်ပါတယ်။ အင်္ဂလိပ်စာကတော့ တတ်သင့်တတ်အပ်တဲ့ ဘာသာရပ်။ နောက်...တရုတ်၊ ဂျပန်၊ ပြင်သစ်၊ အိမ်နီးချင်း ထိုင်း စတဲ့ ဘာသာစကားများကို တတ်သင့်ပါတယ်။

ဘာသာရပ်ဆိုင်ရာ ကိစ္စမှာ ဆေးရှိတယ်။ အင်ဂျင်နီယာ၊ ပထဝီ၊ သမိုင်း၊ သင်္ချာ၊ ရူပဗေဒ၊ ဓာတုဗေဒ စသည်ဖြင့်ရှိရာမှာ ဘာသာအားလုံးဟာ အရေးကြီးပါတယ်။ တိုင်းပြည်မှာ ဆရာဝန်တွေချည်း၊ အင်ဂျင်နီယာတွေချည်း ရှိနေရင် စားမယ့်စပါးကို ဘယ်သူက ထုတ်မလဲ။ ဒါကြောင့် စိုက်ပျိုးမွေးမြူရေးဘာသာရပ်တွေလည်း အရေးကြီးတာပဲ။ အရင်က ဆရာဝန်...ဆရာဝန်ဆိုပြီး အမှတ်များများရအောင်လုပ်ပြီး ဆေးကျောင်းတက်ကြတယ်။ ဆေးကျောင်းတက်ပြီးလို့ ဆရာဝန်ဖြစ်တော့ လူငယ်အချို့ဟာ စီးပွားရေးဝင်လုပ်ပြီး ဆေးမကုကြဘူး။ ဒီလူငယ်တွေအတွက် တိုင်းပြည်က အထူးနစ်နာမှုရှိခဲ့ပါတယ်။ ဒီနှစ်မှာ လူငယ် ၁၀ ယောက်ဟာ ဆေးပညာကို ဝါသနာမပါဘဲ အမှတ်များများရလို့ ဆေးပညာသင်တယ် ဆိုကြပါစို့။ သူတို့နောက် အမှတ်မများပေမယ့် ဆရာဝန်ဖြစ်ရင် ဆေးပညာနဲ့ အသက်မွေးဝမ်းကျောင်းမယ့် အခြားလူငယ်ဆယ်ယောက်ဟာ ဆေးပညာသင်ခွင့်မရဘဲ အခြားကို ရောက်သွားကြတယ်။ ဆေးပညာသင်ပြီး ဆရာဝန်ဖြစ်တဲ့ လူငယ်ဆယ်ယောက်က ဆရာဝန်သာဖြစ်တာ ဆေးပညာနဲ့ အသက်မွေးဝမ်းကျောင်းမလုပ်တော့ တိုင်းပြည်မှာ ဆရာဝန်ဆယ်ယောက် လျော့ပါးဆုံးရှုံးသွားရတာပေါ့။ ဒါဟာ တိုင်းပြည်နစ်နာတာပဲ။

ဒါကြောင့် အသက်မွေးဝမ်းကျောင်းပညာရပ်တစ်ခုခုကို ဘွဲ့ရတဲ့အထိ သင်ကြားပြီး အဲဒီပညာနဲ့ အသက်မွေးဝမ်းကျောင်းမပြုသူကို ရာဇဝတ်မှုနဲ့တောင် တရားစွဲသင့်တယ်လို့ တချို့က ဆိုကြပါတယ်။

ဆေးပညာဟာ အလွန်မှမွန်မြတ်တဲ့ အသက်ကယ်တဲ့ ကိုယ်ကျိုးစွန့် အနစ်နာခံရမယ့်ပညာဖြစ်ပါတယ်။ ဒီတော့ ဆေးပညာသင်မယ်ဆိုရင် ဆင်းရဲသားပြည်သူတွေ၊ မကျန်းမာဘဲ ဝေဒနာခံစားနေရတဲ့သူတွေအတွက် ငွေကြေးကို မမျှော်လင့်ဘဲ အနစ်နာခံခဲ့တဲ့စိတ် ရှိတဲ့သူမှန်သမျှ ဆေးပညာကို သင်ယူသင့်ပါတယ်။ ဆေးပညာကို ငွေရှာဖို့အတွက်တော့ မသင်ယူသင့်ပါဘူး။ တကယ်လို့ ဆေးပညာကို ငွေရှာဖို့အတွက် လက်နက်အဖြစ် အသုံးပြုမိခဲ့ပြီဆိုရင် အဲဒီလူဟာ လောကနိယာမတရားရဲ့ဒဏ်ခတ်ခြင်းကို မုချခံရမှာ မလွဲပါဘူး။

ဆရာဝန်ဖြစ်ရင်တော့ ဒေါက်တာဆိုတဲ့ဘွဲ့ မိမိနာမည်ရှေ့တပ်ပြီး အခေါ်ခံရမယ်။ ဆရာဝန်ဖြစ်ရင် လူနာဆီက ငွေရမယ်။ ဆရာဝန်ပညာနဲ့ ချမ်းသာအောင်လုပ်မယ်လို့ စိတ်ထားရှိတဲ့လူ ဘယ်သူမှ ဆေးပညာကို သင်ယူခွင့်မပြုသင့်ပါဘူး။ အလားတူပဲ အင်ဂျင်နီယာပညာဟာလည်း အတူတူပါပဲ။ ပညာရပ်တွေဟာ ပိုက်ဆံရှာဖို့သင်တာမဟုတ်ဘူး။ ဒီပညာရပ်နဲ့ လူ့အဖွဲ့အစည်းကို အကျိုးပြုဖို့သင်တာပါ။

ပိုက်ဆံရှာတာဟာ အခုခေတ်မှာ ပိုက်ဆံရှာနည်း၊ သူဌေးဖြစ်နည်းတွေရှိပါတယ်။ အဲဒီပိုက်ဆံရှာတဲ့နည်းတွေကို စနစ်တကျ ကျင့်သုံးရင်လူတိုင်း ပညာအခြေခံ အနည်းငယ်ရှိရုံနဲ့ ၁၀ နှစ်အတွင်း ကြွယ်ဝချမ်းသာတဲ့ဘဝကို တည်ဆောက်နိုင်မယ်။ အနှစ် ၂၀ မှာ ကြွယ်ဝချမ်းသာလာမယ်။ ပိုက်ဆံချမ်းသာချင်လို့ဆိုရင် ပိုက်ဆံချမ်းသာတဲ့နည်းနဲ့ရှာသင့်ပါတယ်။ ပညာသင်ပြီးမှ အဲဒီပညာနဲ့ ပိုက်ဆံရှာတာဟာ

သိပ်လည်း မရဘူး။ သိပ်လည်း ပင်ပန်းလို့ မိမိဘဝကို ပညာနဲ့ အများအကျိုးပြုလုပ်ငန်း လုပ်မှာလား၊ ပိုက်ဆံရှာမှာလားဆိုတာ အစကတည်းက ကွဲကွဲပြားပြား သိသင့်ပါတယ်။

ဒါတောင် ၂၁ ရာစုဟာ အသိပညာ စီးပွားရေးခေတ်မို့ ၂၁ ရာစုမှာ ငွေရှာရင်တောင့ ပညာလည်းတတ်ဖို့လိုတယ် ဆိုတဲ့သဘောတွေ ရှိနေပြန်ပါတယ်။ ဘာပဲဖြစ်ဖြစ် ငွေရှာမယ်ဆိုရင်လည်း အသက်မွေးဝမ်းကျောင်းမဟုတ်ဘဲ ရိုးရိုးဝိဇ္ဇာ၊ သိပ္ပံ၊ မဟာဝိဇ္ဇာ၊ မဟာသိပ္ပံဆိုတဲ့ ဘွဲ့တွေတော့ ယူထားသင့်တယ်။ ငွေရှာဖို့မဟုတ်ဘူး။ ငွေရှာရာမှာ အသိဉာဏ်ကို ချဲ့ထွင်ဖို့ပါ။

ဆေးပညာမှ အဓိကကျတာမဟုတ်ပါဘူး။ စာရေးသူရဲ့ မိတ်ဆွေတစ်ဦးက ဆရာဝန်ပဲ။ သူက ဝါသနာမပါဘဲနဲ့ အမှတ်ကောင်းလို့ဆိုပြီး ဆေးပညာသင်တာ။ အခု သူက လူ့ဘဝမှာ ရိုးရိုးဆရာဝန်တစ်ဦးပဲဖြစ်ပြီး အဲဒီတုန်းက သမိုင်းသင်ခဲ့တဲ့ မိတ်ဆွေကတော့ သမိုင်းပညာရှင်၊ သမိုင်းပါမောက္ခတစ်ဦးဖြစ်ပြီး နိုင်ငံက လေးစားခြင်းခံရတဲ့ပုဂ္ဂိုလ်ကြီး ဖြစ်လာပါတယ်။

မိတ်ဆွေ ပထဝီဆရာတစ်ဦးဟာ ကျူရှင်ပြရာမှာ ဆရာဝန်တစ်ယောက်ထက် အများကြီး ဝင်ငွေကောင်းပါတယ်။

ဒါကြောင့် အသက်မွေးဝမ်းကျောင်းပညာကို ဝါသနာမပါရင် မယူတာကောင်းပါတယ်။ အသက်မွေးဝမ်းကျောင်းပညာကို သင်ယူမယ်ဆိုရင် ဒီပညာနဲ့ ငွေရှာလို့မရပါဘူး။ ဒီပညာနဲ့ အသက်မွေးရမှာဖြစ်ပါတယ်။ ပညာဆိုတာဟာ ပုဂ္ဂလိကပစ္စည်းမဟုတ်ဘူး။ အများပိုင်ပစ္စည်းဖြစ်လို့ ပညာတတ်တစ်ဦးဟာ ပညာတစ်ရပ်ရပ်ကို တတ်ပြီးပြီဆိုရင် အဲဒီပညာနဲ့ အများကောင်းစားမှု တစ်ခုခုကို အနစ်နာခံ

ဆောင်ရွက်ရပါမယ်။ ဒါဟာ မလွှဲမသွေ ဆောင်ရွက်ရမယ့်ကိစ္စဖြစ်တယ်။ ရှောင်လွှဲလို့မရတဲ့ကိစ္စလည်းဖြစ်တယ်။ ဒါကြောင့် သမီးက ပထဝီဝါသနာပါသလား။ ပထဝီဝင်ဘာသာကိုယူပြီး နိုင်ငံကို အကျိုးပြုပါ။ ပထဝီကနေ မိုးလေဝသဇလဗေဒ၊ အဏ္ဏဝါဗေဒဆိုတဲ့ ပညာရပ်တွေဟာ နိုင်ငံဂုဏ်ဆောင် အများအကျိုးပြုဘာသာရပ်တွေ ဖြစ်လို့ အလွန်မှ ဂုဏ်ယူစရာကောင်းတဲ့ဘာသာရပ်တွေဖြစ်ပါတယ်။

သမီးရဲ့အမေးကို အတိုချုပ်ပြန်ဖြေရရင်တော့—

၁။ ပညာကို ဆုံးခန်းတိုင်သင်ပါ။ ဘွဲ့တစ်ခုခုတော့ ရအောင်ယူပါ။ ဒါပေမယ့် အခြေအနေမပေးရင် တက္ကသိုလ်ဘွဲ့ကို ဒုက္ခခံပြီး ယူမနေပါနဲ့။ အလုပ်လုပ်ပြီး တစ်ပိုင်းက ပညာရှာပါ။ ယခုကာလက အဝေးသင်တက္ကသိုလ်ရှိတယ်။ အခြားဘာသာရပ်ဆိုင်ရာ ပုဂ္ဂလိကကျောင်းတွေ အများကြီးရှိပါတယ်။

၂။ ဆေးပညာဝါသနာမပါရင် ငါးဘာသာဖြေတော့ အမှတ် ၅၀၀ အပြည့်ရထားဦး၊ ဆေးပညာကို မသင်ယူပါနဲ့။ သမီးဝါသနာပါတဲ့ ပထဝီဝင်ပညာကိုပဲ သင်ယူပါ။ သမီးက အနှစ် ၂၀ အတွင်း ကြီးကျယ်ထင်ရှားတဲ့သူတစ်ဦး မုချဖြစ်လာပါမယ်။

၃။ ပညာရှာတာနဲ့ ငွေရှာတာ မရောထွေးပါနဲ့။ ပညာပဲရှာရှာ ငွေပဲရှာရှာ၊ ငွေရော ပညာရော ဘယ်ဟာပဲရရ မိမိအကျိုးနဲ့ အများအကျိုး မျှတပြီး သုံးရမယ်ဆိုတာကို တရားသေ လက်ခံထားပါ။

**ပန်းမျိုးတစ်ရာစာပေ**

နောက်ပြီး သမီး ဘယ်ဘာသာယူရမယ်ဆိုတဲ့ကိစ္စဟာ မိသာ စု ကိစ္စလည်း ဖြစ်ပါတယ်။ ဖခင်ကြီးဖြစ်သူရဲ့ အကြံဉာဏ်ဟာလည်း အရေးကြီးပါတယ်။ ဒါကြောင့် အဖေထံက သမီးအတွက် အချိန်ကို တောင်းယူပါ။ သမီးနဲ့ မိဘနှစ်ပါး ပညာသင်ကြားရေးအတွက် အချိန်ကို တောင်းယူပါ။ သမီးနဲ့ မိဘနှစ်ပါး သင်ကြားရေးအတွက် အချိန်ယူပြီး ဆွေးနွေးကြရပါမယ်။ အဲဒီလို ဆွေးနွေးပွဲကရတဲ့ အကြံဉာဏ်တွေဟာ အခုပေးတဲ့ အကြံဉာဏ်များထက် ပိုမိုကောင်းမွန်မယ်လို့ ယူဆပါတယ်။

◆

## အရက်တရား

အရက်တရားသည် အားနာမှုမျိုးစုံကို ပေါက်ဖွားတတ်၍ လူ့ဘဝတွင် ဆုံးရှုံးမှုမျိုးစုံနှင့် ကြုံကြိုက်စေနိုင်သည်။ အရက်တရားရှိခြင်း၊ အားနာမှုရှိခြင်းတို့ကြောင့် လူလူချင်း မျက်နှာချင်းဆိုင် ယှဉ်ပြိုင်ရသောကိစ္စများတွင် အရှုံးများစွာကို ဖြစ်ပေါ်စေသည်။

အခန်း (၁၁)

## ကျွန်မ လူမဝင်ဆံ့အောင်ကို ရှက်တတ်နေပါတယ် ရှက်စိတ်ကြောင့် အာတွေဆုံးရှုံးနိုင်ပါသလဲ

**မေး** ။ ။ ကျွန်မ ဘယ်သူဘယ်ဝါဆိုတာကိုတော့ မဖော်စေလိုပါ။ ကျွန်မမေးချင်တာ ကျွန်မ ဘာကြောင့်ရယ်မသိ ရှက်တတ်နေပါတယ်။ လူရှေ့သူရှေ့မှာလည်း မနေတတ် မထိုင်တတ် ဖြစ်ပါတယ်။ လူတစ်ယောက်ကို မျက်နှာတည့်တည့်ကြည့်ပြီး စကားပြောမိရင် ကျွန်မ မျက်နှာက နီရဲသွားတာပါပဲ။ အလုပ်မှာလည်း ဘယ်သူနဲ့မှ စကားမပြောတော့ ကျွန်မကို မာနကြီးတယ်လို့ ပြောကြပါတယ်။ တကယ်တော့ ကျွန်မ မာနကြီးတာမဟုတ်ပါဘူး။ ရှက်နေတာပါ။

ရှက်စိတ်ကြောင့် မည်သည့်ဆုံးရှုံးမှုများ ရှိနိုင်သည်ကို သိပါရစေရှင်။ ကျွန်မအသက် ၂၀ ပဲ ရှိပါသေးတယ်။

ရှက်တတ်သူ

**ဖြေ** ။ ။ လေ့လာဆန်းစစ်ချက် တစ်ခုအရတော့ ၈၀ ရာခိုင်နှုန်းသော သူတွေဟာ သူတို့ဘဝ အချိန်ကာလတစ်ခုခုမှာ ရှက်တတ်ဖူးသူများချည်း ဖြစ်တယ်လို့ ဆိုပါတယ်။ တချို့ကတော့

သေတဲ့အထိ ရှက်စိတ်ရှိသွားတတ်ကြပြီး ရှက်စိတ်ဟာ ရှေးကာလ ပဝေသဏီကတည်းက လူသားတို့ထံတွင် ကိန်းအောင်းနေသော စိတ်ခံစားမှုတစ်မျိုးဖြစ်ကြောင်း သိရပါတယ်။

## ရှက်စိတ်ဆိုတာ

ရှက်စိတ်ဆိုတာကတော့ သူစိမ်းများအကြား၊ အာဏာရှိသူများ၏ ရှေ့မှောက်၊ ဆန့်ကျင်ဘက်လိင်များရှေ့ စသည်တို့တွင် နေရထိုင်ရ ကသိကအောက်ဖြစ်ခြင်းသဘောဖြစ်သည်။ တစ်ခါတစ်ရံ ရွယ်တူ တန်းတူလူများ အသိုင်းအဝိုင်းတွင်ပင် ရှက်စိတ်ပေါ်တတ်သည်။

အချို့သည် ရှက်စိတ်ပူးကပ်နေပြီဟုဆိုပါက မျက်လွှာချ၊ ရင်တွေ တဆတ်ဆတ်ခုန်ကာ စကားပြောရန်အတွက်ပင် နှုတ်မှစကားများ ထွက်မလာတော့ပါ။ အချို့ကျတော့လည်း ရှက်စိတ်ကြောင့် ဣန္ဒြေ ပျက်ယွင်းကာ စကားကို ဆက်တိုက် မရပ်မနား ပြောနေမိတတ်ကြ၏။ အချို့ကျတော့လည်း စကားပြောဖို့၊ မိမိ တင်ပြပြောဆိုဖို့အချက် များကို ဖော်ထုတ်ရန် မဝံ့မရဲဖြစ်ပြီး စကားများ အယောင်ယောင် အမှားမှားဖြစ်ရသည်။

ထို့ကြောင့် အလွန်အမင်း ရှက်စိတ်ရှိခြင်းသည် မကောင်းဟု ဆိုရပါမည်။

သို့သော် ရှက်စိတ် အသင့်အတင့်ရှိခြင်းကို ကောင်းသော အရည် အသွေးတစ်ရပ်အဖြစ် သဘောထားကြပါ၏။ ရှက်စိတ်သည် မဝင့်ဝါ ခြင်း၊ နှိမ့်ချခြင်းစိတ်များနှင့် နီးကပ်၍ စိတ်ကောင်းတစ်ရပ်ဟု ဆိုနိုင် သည်။ ရှက်စိတ်သည် နိုင့်ထက်စီးနင်းမရှိခြင်း၊ ရန်လိုသောသဘော

မရှိခြင်း စသော အကျိုးတရားများ ရှိပါ၏။ ရှက်တတ်သောသူတစ်ဦးသည် သူတစ်ပါးစကားပြောလျှင် နားစိုက်ထောင်တတ်သူတစ်ဦး ဖြစ်တတ်ပါ၏။

**သို့သော် ရှက်စိတ်သည် ကျွန်ုပ်တို့၏ ထက်မြက်သော အရည်အသွေးများကို ကန့်သတ်ချုပ်ချယ်လျက်ရှိပြီး ကျွန်ုပ်တို့၏ ဆက်ဆံရေးများကို ဒုက္ခပေးတတ်သည်။ ရှက်စိတ်သည် ကိုယ်ရည်ကိုယ်သွေးညှိုဖျင်းမှုလက္ခဏာတစ်ရပ်ဖြစ်၏။**

**ထို့ကြောင့် ရှက်စိတ်ကို ကျွန်ုပ်တို့သည် ပြုပြင်ရန် လိုအပ်ပါ၏။**

## ဘာကြောင့် ရှက်ရသနည်း

သင်က အခြားသူများသည် သင့်အား မကောင်းဟုထင်နေသည်။ သူတို့က သင့်ကိုမကြိုက်ဟုထင်နေသည်။ အခြားသူများက သင့်ထက် ပိုတော်သည်၊ ပိုတတ်သည်၊ ပိုကောင်းသည်ဟုထင်ပြီး သင်သည် သူများထက် နိမ့်ကျနေသည်ဟု အထင်ရှိရာက ရှက်စိတ် ပေါ်လာတတ်ခြင်း ဖြစ်သည်ဟုဆိုပါ၏။

အရှက်တရားသည် သူများနှင့်ဆက်ဆံရာတွင် တွန့်ဆုတ်နေခြင်း၊ ပွင့်လင်းမှုမရှိခြင်း၊ မိမိအတွေးနှင့်သာမိမိ နစ်မြုပ်နေခြင်းတို့ဖြစ်ရာမှ သူများကိုအားနာခြင်း၊ လူများနှင့်တွေ့ဆုံရန် ရှောင်ရှားနေခြင်းတို့သည်း ဖြစ်တတ်၏။ ထိုအခါ သင့်ကို သူများတကာက မာနကြီးသည်ဟု ထင်မှတ်လာတတ်၏။ ထို့အပြင် သင့်အား မိတ်ဆွေဖြစ်လိုစိတ်မရှိသူ၊ ညည်းငွေ့တတ်သူ၊ ဂရုမစိုက်သောသူဟုလည်း အများက ထင်သပ်လာတတ်ပါ၏။ ထိုကဲ့သို့ အများက မှတ်ချက်ချခံရပါက ကောင်းပါ။

ရှက်တတ်သောသူသည် ဘာနှင့်တူသနည်းဟုဆိုပါက ထောင်တစ်ခုအတွင်း၌ မိမိကိုယ်မိမိ အကျဉ်းချ ပိတ်ဆို့သော့ခတ်ထားပြီး ထိုသော့ချောင်းကို မိမိဘာသာ လွှင့်ပစ်လိုက်သောသူနှင့် တူသည်ဟု ဆိုပါသည်။

ရှက်တတ်သူများသည် ပွင့်ပွင့်လင်းလင်းနှင့် မိမိထင်မြင်ချက်ကို ထုတ်ဖော်ရန် ကြောက်ရွံ့နေတတ်သူများလည်းဖြစ်၏။

**ထို့ကြောင့် ရှက်တတ်သူများသည် လူများနှင့်တွေ့ဆုံခွင့် ဆုံးရှုံးခြင်း၊ မိတ်ဆွေဖြစ်မှုဆုံးရှုံးခြင်း၊ ဘဝတိုးတက်စေမည့် အလုပ်အကိုင်များ ရပိုင်ခွင့်ဆုံးရှုံးခြင်းတို့မှတစ်ဆင့် ပျော်ရွှင်မှု ဆုံးရှုံးခြင်းများအထိ ဖြစ်တတ်ပါ၏။ ထိုအရာများ ဆုံးရှုံးပါက ဘဝဆုံးရှုံးသည်လည်း မည်ပါ၏။**

လူတွင်ရှိသော မည်သည့်အမူအကျင့်မဆို အချိန်နှင့် ကြိုးပမ်းမှုကို အရင်းတည်၍ ပြောင်းလဲလာတတ်ကြပါသည်။ ရှက်စိတ်ကိုလည်း ပြောင်းလဲ၍ ရပါသည်။

ရှက်တတ်သောလူငယ်တစ်ဦးကို သုတေသနဌာနတစ်ခုက လေ့လာရာတွင်-

၁။ ထိုလူငယ်သည် မိမိကိုယ်မိမိသာ စိတ်ဝင်စားနေသည်။ မိမိအကြောင်းသာ မိမိတွေးနေပြီး သူများတကာက ငါ့ကို ဘယ်လိုများသဘောထားကြမလဲဟု အမြဲယူဆနေသူတစ်ဦးဖြစ်သည်ကို တွေ့ရ၏။

၂။ ဒုတိယအချက်မှာ ထိုလူငယ်သည် အခြားသူများကို မယုံ။ သူတို့ ငါ့ကို အထင်သေးကြမှာပဲ ယူဆထားသည်ကို တွေ့ရသည်ဟု ဆိုပါ၏။

ထိုလူငယ်ကို သင်တန်းတစ်ခုတက်စေပြီး လူတွေရဲ့ အဆိုးတွေကို မတွေးနဲ့။ အကောင်းကိုသာတွေး။ အခြားသူတွေနဲ့ပတ်သက်လို့ မကောင်းတဲ့စိတ်ကိုလည်း ဖျောက်ဖို့ရန် သင်ကြားပြီး မေတ္တာတရားနှင့် စာနာစိတ်ကို မွေးမြူနိုင်ရန် ပြုပြင်ပေးသောအခါ ထိုလူငယ်သည် အရှက်တရားများ လျော့ပါးလာပြီး ကိုယ်ရည်ကိုယ်သွေးတက်လာသည့်လူတစ်ယောက် ဖြစ်လာသည်ဟု ဆိုပါ၏။

သင်သည် ရှက်တတ်နေပါက သင့်ကိုယ်သင် ယုံကြည်မှုရှိအောင် ပျိုးထောင်ပါ။ သူများကိုလည်း ယုံကြည်ပါ။

ထို့နောက် မိမိမိတ်ဆွေသင်္ဂဟများကို မိမိက စတင်၍ ဟဲလို မင်္ဂလာပါ စသည်ဖြင့် စတင်နှုတ်ဆက်ကြည့်ပါ။ အပေါင်းအသင်း ကျယ်ပြန့်မှုရှိအောင် လေ့ကျင့်ပါ။ မိမိ၏အဝတ်အစားများကို သပ်ရပ်သန့်ရှင်းစွာဝတ်ပါ။ သင့်ကိုယ်သင် ကြည့်ကောင်းအောင်၊ ကြည့်ပျော်ရှုပျော်ဖြစ်အောင် ပြင်ဆင်၍နေပါ။ ထိုအခါ သူများက သင့်ကို ဂရုစိုက်လာပါမည်။ သင်က ကြည့်ပျော်ရှုပျော်ဖြစ်နေလျှင် သင်ပြောသောစကားကိုလည်း သူတို့ ဂရုစိုက်လာပါမည်။ ထိုသို့ ကြိုးစားရာတွင် သင်သည် ရှက်စိတ်များ လျော့ပါးလာပါက သက်သောင့်သက်သာ ရှိလာပါမည်။

သင့်ခါးကို ဆန့်ဆန့်ထားပါ။ မျက်နှာကို ကြည်လင်စွာထားပြီး ပြုံးကြည့်နေပါ။ ရင်းနှီးချစ်ကြည်စွာ မျက်လုံးချင်းဆုံ၍ အခြားသူများ၏စကားများကို ခေါင်းညိတ်ခြင်း၊ ပြန်လှန်ပြောဆိုခြင်းတို့ဖြင့် အသိအမှတ်ပြုပါ။

**ပန်းမျိုးတစ်ရာစာပေ**

လူများနှင့် စကားပြောရပါကလည်း ကျဉ်းကျဉ်းကျပ်ကျပ် ရှိမနေပါစေနှင့်။ စကားမပြောမီ ပြင်ဆင်မှု လေ့ကျင့်မှု ပြုလုပ်ပါ။ မကြောက်ပါနှင့်။ မိမိကိုယ်မိမိ ယုံကြည်မှုမွေးပါ။

မြန်မာမှုတွင် ဟီရိနှင့် ဩတ္တပ္ပဆိုသော တရားနှစ်ပါး ရှိပါ၏။ ထိုတရားနှစ်ပါးသည်လည်း အရှက်အကြောက်တရားများ ဖြစ်ပါသည်။ ယင်းတို့မှာ–

မကောင်းပြုရမှာကို ရှက်ခြင်း၊ မကောင်းမှုပြုရမှာကို ကြောက်ခြင်းဟူသော လောကပါလတရားနှစ်ပါး ဖြစ်ပါ၏။ ယခု သမီးရှက်နေခြင်းမှာ မကောင်းမှုကို သမီး ပြုလုပ်ထား၍ ရှက်နေခြင်းမဟုတ်ဘဲ စိတ်အားငယ်၍ စိတ်ဓာတ်ဆိုင်ရာ ပြင်ဆင်မှု တစ်စုံတစ်ရာမရှိ၍ ရှက်နေခြင်းဖြစ်ရာ ထိုအရာကို ပြင်သင့်ပါသည်။

ထိုသို့ ရှက်ခြင်းသည် လူတောမတိုးခြင်း၊ လူရာမဝင်ခြင်းမှ ဘဝအောင်ပွဲကို ရယူရာတွင် နိမ့်ပါးတတ်သောကြောင့် မကောင်းမှု ပြုလုပ်ရမည်ကို ရှက်ရမည်ဖြစ်သော်လည်း အကြောင်းမဲ့ ရှက်နေခြင်းကိုကား လေ့ကျင့်ပြင်ဆင်ပါ။

မေတ္တာတရားထားခြင်း၊ မိမိရင်ထဲ၌ ချစ်ခင်မှုကို မွေးမြူခြင်းသည် အရှက်တရားကို ဖယ်ရှားနိုင်ကြောင်း ဖြေကြားအပ်ပါသည်။

အရှက်တရားသည် အားနာမှုမျိုးစုံကို ပေါက်ဖွားတတ်၍ လူ့ဘဝတွင် ဆုံးရှုံးမှုမျိုးစုံနှင့် ကြုံကြိုက်နိုင်ပါ၏။ အရှက်တရားရှိခြင်း၊ အားနာမှုရှိခြင်းတို့ကြောင့် မျက်နှာချင်းဆိုင် ယှဉ်ပြိုင်ရသောကိစ္စများတွင် အရှုံးများစွာ ဖြစ်ပေါ်နိုင်ပါသည်။ ရှက်စိတ်သည် ကြောက်စိတ်၊ အားငယ်စိတ်တို့နှင့်လည်း ဆက်စပ်မှုရှိသည်ကို သတိရှိစေလိုပါသည်။

သမီးတွင် လူဝင်ဆံ့မှုမရှိရလောက်အောင် ရှက်စိတ်ရှိနေပြီဟု ဆိုပါက ထိုစိတ်ကို ပြုပြင်ရပါမည်။ လူမှုဆက်ဆံရေးတွင် ရှက်စိတ်သည် အဟန့်အတားတစ်ခု ဖြစ်တတ်ပါသည်။ သို့သော်လည်း အချို့သော ဝတ္ထုရေးဆရာများ၊ သုတေသီများသည် ရှက်စိတ်ကြောင့် လူတော မတိုးရာမှ မိမိတစ်ဦးတည်း ကျိတ်၍ လုပ်ဆောင်ရင်း ထူးချွန်မှုများ ရရှိသည့်ဖြစ်ရပ်များလည်း ရှိကြောင်း ဖြေကြားလိုက်ရပါသည်။

◆

## အသက်ရှင်လျက်လိပ်ပြာသေသူ

လူများသည် မိမိ၏စာရိတ္တ မိမိ၏လိပ်ပြာကို လျစ်လျူရှုသောလမ်းကြောင်းကို ရွေးမည်ဆိုက ရွေးစရာများ ရှိပါ၏။ သို့သော် ထိုလူသည် လိမ်ညာခြင်းကို ပို၍ပြုလုပ်လေ အမှားကို အမှားမှန်း ပို၍မသိလေ ဖြစ်ကာ ထိုလူသည် အသက်ရှင်ပါလျက် လိပ်ပြာသေနေသောလူတစ်ယောက်ဘဝသို့ ရောက်ရပါ၏။

အခန်း (၁၂)

## မလိမ်ရဘူးဆိုပြီး နေ့တိုင်းလိမ်နေရတယ်။ ရိုးသားမှုဟာ အကောင်းဆုံးဝါဒဆိုတာ ဟုတ်ရဲ့လား

**မေး** ။ ။ မလိမ်ရဘူး၊ မညာရဘူးဆိုတဲ့ ဆိုဆုံးမမှုကို နေ့တိုင်း နေ့တိုင်း နာခံနေရပါတယ်။ ဒါပေမယ့် ကျွန်တော်ရော ကျွန်တော့် ပတ်ဝန်းကျင်ပါ နေ့စဉ် လိမ်နေတာကိုလည်း တွေ့နေရပါ တယ်။ ကျွန်တော်သည် မိသားစုထဲမှာရော ကျောင်းမှာပါ လိမ်ဖြစ်နေ ပါတယ်။ ကျွန်တော် ဘာလုပ်ရမလဲ…။ ရိုးသားမှုဟာ အကောင်းဆုံး ဝါဒဆိုတာရော ဟုတ်ကဲ့လား။

**ဖြေ** ။ ။ အမေ့ကို အိပ်ခန်းသန့်ရှင်းပြီးပြီလို့တော့ ပြောလိုက် သည်။ သို့သော် တကယ်တမ်းကျတော့ အားလုံးကို အိပ်ရာအောက်သို့ ပစ်သွင်းထားလိုက်ခြင်း ဖြစ်သည်။ လစစ်စာမေးပွဲ တွင် အောင်လက်မှတ် မရခဲ့သောလက စာမကျက်၍ဟု ဝန်မခံဘဲ ဆရာနှင့် အဆင်မပြေသောကြောင့်ဟု ပြောဆိုခဲ့၏။

ပန်းမျိုးတစ်ရာစာပေ

အမေရိကန်ပြည်ထောင်စုတွင် လေ့လာချက်တစ်ရပ်က မိမိတို့နိုင်ငံတွင် ကျောင်းသားထက်ဝက်မျှသည် လိမ်ညာနေကြသည် (သို့မဟုတ်) လိမ်ညာမှုကို ခံနေကြရသည်ဟု ဆိုပါ၏။

လိမ်ညာရခြင်း၏ အရင်းအမြစ်ကို လေ့လာပါက–

၁။ အပြစ်ပေး အပြစ်တင်ခံရမည်စိုး၍ လိမ်ညာကြခြင်း

၂။ ကြွားဝါလိုမှုကြောင့် လိမ်ညာကြခြင်း

၃။ လောဘကြောင့် လိမ်ညာကြခြင်းဖြစ်၏။

**မြတ်စွာဘုရားက သားတော် ရာဟုလာအား "ချစ်သားရာဟုလာ၊ ရယ်မောနောက်ပြောင်သည့်သဘောနှင့်ပင် မုသားမဆိုမိစေရန် သင်သည် ကြိုးပမ်းအားထုတ်အပ်၏"**

[ရာဟုလာဝါဒသုတ် ၇၇]

**သစ္စာတရားကို ကျော်ခိုင်း၍ မုသားပြောဆိုရန် ဝန်မလေးသူတို့အတွက် ဤလောကတွင် မလုပ်ဝံ့ မလုပ်ရဲသော အကုသိုလ်အမှုသည် မရှိတော့။**

**[ဓမ္မပဒ–၁၁၇]**

**လူငယ်တစ်ယောက်အဖို့ အရေးအကြီးဆုံးကိစ္စမှာ အကျင့်စာရိတ္တကောင်းမွန်သည်ဟု ထင်ရှားကျော်စောအောင် ဆောင်ရွက်ခြင်းပင်ဖြစ်သည်။**

[ရှော့ဖ်ဖဲလား]

မိဘများနှင့် အရွယ်ရပြီး လူကြီးများသည် ဘဝအတွေ့အကြုံအရ လူငယ်များ၏အကြောင်းကို ဖောက်ထွင်းသိရှိနားလည်ပြီး ဖြစ်သည်။ လူငယ်များပြောဆိုသောစကား ၆၀ % တွင် ဘယ်ဟာက အမှန်၊ ဘယ်ဟာက လိမ်ညာခြင်းဖြစ်သည်ကို လူကြီးများက ချက်ချင်းသိကြ

သည်။ ကျန် ၃၀ ရာခိုင်နှုန်းကို နောက်မကြာမီ သိရှိကြပြီး ၁၀ ရာခိုင်နှုန်းကို သတိမမူဘဲထား၍ မေ့ပျောက်ကုန်ခဲ့ခြင်းဖြစ်၏။

အချို့လူငယ်များ လိမ်လည်မှုသည် လူကြီးများက သွေးအေးအေးနှင့် တုံ့ပြန်ပြောဆိုနိုင်ပါလျက် လူကြီးများက သွေးပူပူနှင့် တုံ့ပြန်ပြောဆိုလေ့ရှိသောအခါ ပြန်လာရမည့်အချိန်ထက် နှစ်နာရီခန့် နောက်ကျပြီး ရောက်လာသော လူငယ်များသည် မိမိတို့ ဘာကြောင့်နောက်ကျရသည်ကို အမှန်အတိုင်းမပြောဘဲ လမ်း၌ မတော်တဆထိခိုက်မှုတစ်ခုဖြစ်သယောင် ပြောဆိုကြရာမှ လူငယ်များ စတင်လိမ်တတ်လာသည်ကို သတိပြုရန်လိုပါ၏။

ကျွန်တော်တို့ထံ စာရေးသောလူငယ်မှာ လူကြီးများက နေ့စဉ်မလိမ်ဖို့ ပြောနေသော်လည်း အကြောင်းအရာများက နေ့စဉ် သူ့အားလိမ်ဖို့ တွန်းပို့ခံနေရသည်ဟု ဆိုပါသည်။

လိမ်လည်မှုသည် လူငယ်များအတွက် လောလောဆယ် ထွက်ပေါက်တစ်ခုဖြစ်သော်လည်း အချိန်ကြာလာသောအခါ ထိုက်သင့်သည့်ပြစ်ဒဏ်ကို ခံရစမြဲဖြစ်ပါ၏။

မိဘများဘက်ကလည်း ပထမ မိမိကျူးလွန်သော အပြစ်အပြင်နောက်ထပ် လိမ်မည့်မှုအပြစ်အတွက်ပါ စိတ်ဆိုးစိတ်တို ဖြစ်ကြရ၏။ လိမ်လည်မှုသည် အကျင့်ပါလာရာမှ မိမိထံတွင် ခလေ့စရိုက်ဖြစ်လာကာ စကားအမှန်မပြောသောအခါ လူ့ဘဝတွင် ဘာမျှသုံးမရ ဆက်သွယ်၍မရ ဖြစ်လာနိုင်၏။ စကားအမှန်မပြောမှုတစ်ခုတည်းအတွက် လူ့ဘဝသည် ဆုံးရှုံးပျက်စီးနိုင်၏။

လူငယ်များ လှည့်စားပြောဆိုမှုနှင့်ပတ်သက်၍ လူငယ်တရားရေးဆိုင်ရာ ညွှန်ကြားရေးမှူးအဆင့်ရှိသူတစ်ဦးက "ပညာရေးနှင့်ပတ်သက်

လို့ မရိုးသားမှု ပြစ်မှုတစ်ခုကိုကျူးလွန်သော ကျောင်းသား ကျောင်းသူတစ်ဦးသည် ဆက်လက်ပညာသင်ကြားရေးအတွက်သာမက နောင်အလုပ်အကိုင်တစ်ရပ် ရရှိရေးအတွက်ပါ ထိခိုက်မှုရှိသည်”ဟု ပြောဆိုခဲ့ပါ၏။

ရေကူးသင်တန်းတစ်ခုတွင် သင်တန်းချိန်ကိုလွတ်အောင် လှည့်စားရှောင်ကွင်း၍ ဆရာသင်ကြားမှုကိုလည်း တိတိကျကျ မလိုက်နာခဲ့သော ပြစ်မှုတစ်ခု ရှိခဲ့၏။ သို့သော် ထိုလူငယ် သင်တန်းဆင်းသောအခါ အများနည်းတူ သင်တန်းဆင်းလက်မှတ်တစ်ခု ရရှိအောင်အထိ ဆက်၍ လိမ်လည်ဆောင်ရွက်နိုင်ခဲ့၏။ သို့သော် သင်တန်းဆင်းပျော်ပွဲစားထွက်ရာတွင် လှေမှောက်သောအခါ ထိုလှည့်စားသောအကျင့်က ထိုလူငယ်ကို ရေနစ်သေစေခဲ့ပါ၏။

လူငယ်တစ်ဦးသည် သင်္ချာဘာသာနှင့် အင်္ဂလိပ်စာကို သင်ကြားရန် အချိန်ခိုး၍ လှည့်ပတ်နေခဲ့၏။ ပထမပိုင်းတွင် မရိုးသားမှု၏ရလဒ်သည် သိသာမှုမရှိသော်လည်း ထိုလူငယ်သည် အခြေခံကျွမ်းကျင်မှုမရရှိသောအခါ စာဆက်သင်၍မရသောဘဝသို့ ရောက်ရပါတော့၏။

လိမ်လည်လှည့်ဖြား၍ အမှတ်များပိုရအောင်၊ ဂုဏ်ထူးပိုရအောင် မိဘများကပါ ဝိုင်းဝန်းကြိုးစားမှုများ ရှိကြသည်။ မိဘများပါ ပါဝင်လိမ်လည်လှည့်ဖြားခြင်းကြောင့် အမှတ် သို့မဟုတ် ဂုဏ်ထူးရလိုက်သည်မှာ မှန်သော်လည်း ရေရှည်အကျိုးကား ဘာမျှမရှိသည့်အပြင် ထိုလူငယ်သည် ဘဝကို ရင်ဆိုင်ရာတွင် လိမ်ရမည်ဟူသော အစွဲအလမ်းကြီး ပါသွားရာမှ ထိုလူငယ်၏ဘဝနှင့် သူ့ပတ်ဝန်းကျင်သည် ရစရာမရှိအောင် ပျက်စီးခြင်းသို့ ရောက်ရလေ၏။

လူများသည် မိမိ၏ စာရိတ္တ၊ မိမိ၏လိပ်ပြာကို လျစ်လျူရှုသော လမ်းကြောင်းကို ရွေးမည်ဆိုက ရွေးစရာများရှိပါ၏။ သို့သော် ထိုလူသည် လိမ်ညာခြင်းကို ပို၍ပြုလုပ်လေ အမှားကို အမှားမှန်း ပို၍မသိလေဖြစ်ကာ ထိုလူသည် အသက်ရှင်ပါလျက် လိပ်ပြာသေနေသော လူတစ်ယောက်ဘဝသို့ ရောက်ရပါ၏။

သင်သည် အခြားသူများအကြောင်းကို အကြင်နာကင်းစွာဖြင့် ထိခိုက်နစ်နာအောင် ပြောဆိုတတ်သည့်အုပ်စုတွင် ပါဝင်ခဲ့ဖူးပါသလား။ ဤသို့သော ပြောဆိုမှုမျိုးတွင် သင် ဝင်မိနေပါက ချက်ချင်းရပ်ပါ။ မပါဝင်အောင် သင့်စိတ်ဓာတ်အင်အားကို သင် မြှင့်တင်ပါ။

ကြွားဝါရာမှ၊ မိမိအား အထင်ကြီးစေလိုရာမှလည်း မုသားစကားကို ဆိုကြ၏။ ထိုသို့ပြောဆိုပြီး မကြာမီပင် ကြွားဝါပြောဆိုမှုသည် ဘွင်းဘွင်းကြီးပေါ်တတ်စမြဲဖြစ်သည်။

မည်သို့ပင်ဖြစ်စေ မိမိကိုယ်တိုင် မကြွားဝါရုံသာမက ကြွားဝါပြောဆိုတတ်သူများကို ပေါင်းသင်းခြင်းမှ သင်ကိုယ်တိုင် ရှောင်ရှားရန်လိုအပ်ပါ၏။ ထိုလူမျိုးများနှင့်ပေါင်းပါက သူတို့သည် သင့်အားလည်း သူတို့နည်းတူ ကြွားဝါပြောဆိုစေချင်ကြပါ၏။ သူတို့နှင့်အတူလိုက်၍ ကြွားဝါနေရာမှ သင့်ကို တစ်နေ့တွင် သူတို့က ဒုက္ခပေးသည်ကို ခံရတတ်ပါ၏။ သူတို့သည် သင်ယုံကြည်ထိုက်သောသူများ ဘယ်တော့မှ ဖြစ်မလာနိုင်ပါ။

ရိုးသားမှုကို လေးစားတန်ဖိုးထားသူ မိတ်ဆွေသူငယ်ချင်းများကို ရှာဖွေပေါင်းသင်းပါ။

လိမ်လည်မှု၏ အခြေခံအကြောင်းတရားသည် လောဘဖြစ်သည်။ စာမေးပွဲဖြေဆိုရာတွင် အဆင့်ကောင်းကောင်း၊ အမှတ်ကောင်းကောင်း

လိုချင်သော လောဘကြောင့် စာမေးပွဲဖြေဆိုရာတွင် ကြိုတင် ကျက်မှတ်ထားမှုမရှိဘဲ စာမေးပွဲခန်းအတွင်းသို့ မှတ်စုများယူသွားခြင်း၊ တံစိုးလက်ဆောင်များပေးခြင်း၊ ယူခြင်းများ ရှိကြပါ၏။ ထိုသူများသည် ထိုခဏတွင် အမှတ်သော်လည်းကောင်း၊ အဆင့်သော်လည်းကောင်း ရချင်ရမည်ဖြစ်သော်လည်း ထိုလူငယ်၏ စာရိတ္တသည် ပျက်စီးခြင်းဘဝသို့ ရောက်ရလေရာ အမှတ်နှင့်ဘဝကို လဲမလားသင့်ဟာသင် ဆုံးဖြတ်ပါလေ။

တံစိုးလက်ဆောင် ယူသူများသည် တရားမျှတမှုထက် ငွေကို တန်ဖိုးထားသူများ ဖြစ်ကြပါ၏။

ဤအမေးအဖြေကို ရေးသားနေစဉ် မိမိတို့ အောင်မြင်မှုနှင့် ငွေကြေးရရှိရေးအတွက် သမ္မတကြီးများပင် လာဒ်စားမှုလုပ်ငန်းကို လုပ်ခဲ့ကြသည်ဟု ဆင်ခြေတက်မှုတစ်ရပ် ဖြစ်ပေါ်ခဲ့ပါ၏။ ကျွန်တော်က ပြောပါ၏။ ကိုရီးယားမှ သမ္မတကြီးများသည် တရားစီရင်မှုကို ခံရကာ ထောင်ကျခဲ့၍ သမ္မတကြီးလင်ကွန်းလိုပုဂ္ဂိုလ်သည် အောင်မြင်မှုကို အောင်ပွဲနှင့်ရယူသူဖြစ်ကြောင်း ပြောဆိုရပါသည်။ အောင်မြင်မှုကို ဘယ်သောအခါမှ ဖုံးကွယ်မှုနှင့် အရမယူပါနှင့်။

ဗြိတိသျှနန်းရင်းဝန် ဝေါ်တာပိုက လူ၏ဂုဏ်သိက္ခာကို ငွေပေးလျှင် ချိုးဖောက်၍ရသည်။ အချို့တစ်သောင်း၊ တချို့တစ်သိန်း၊ တချို့တစ်သန်းပေးပါက တစ်နေရာတွင် ကျိုးပျက်စမြဲဟု ဆိုပါ၏။ သို့သော် နန်းရင်းဝန်ကြီး ဒစ္စရေလီက သူ၏ဂုဏ်သိက္ခာ ကျိုးပေါက်ရလောက်အောင် ပေးဖို့ ဤကမ္ဘာမြေကြီးသည် ကြွယ်ဝချမ်းသာမှုမရှိဟု ဆိုပါ၏။ ဤကမ္ဘာကြီးပေးတောင် မိမိစာရိတ္တ ကျိုးပေါက်လိမ့်မည် မဟုတ်ဟု ဒစ္စရေလီက ပြောဆိုခြင်းဖြစ်ပါ၏။

နောက်ဆုံး ဤကိစ္စနှင့်ပတ်သက်၍ ပြောရပါက လိမ်လည်မှု မှသားပြောဆိုမှုသည် ရလဒ်ထက် ဆိုးကျိုးက ပိုများသောအလုပ် ဖြစ်၏။ လောလောဆယ် ရလဒ်သည် တစ်ဆိုပါက အနာဂတ်တွင် ဆိုးကျိုး အဆတစ်ထောင်လောက် ခံရစမြဲဖြစ်ပါ၏။

ထို့ကြောင့် လူငယ်များသည် ရိုးသားသည့်လိပ်ပြာကို မိမိတို့ရင်ထဲ တွင် မွေးကြရမည်ဖြစ်သည်။

လူကြီးမိဘများသည် မိမိအကျိုးကို လိုလားသူချည်းဖြစ်သည်။ သူတို့သည် ရှည်လျားသောခရီးကို လျှောက်ခဲ့ပြီးသူများ ဖြစ်သည်။ သို့သော် သူတို့သည် သားသမီးများအပေါ် ချစ်မေတ္တာစိတ်၊ စိုးရိမ်စိတ် ဖြင့် ပူပန်တတ်ကြသည်။

ထို့ကြောင့် ပူပန်မှုများကို အမှန်တရားဖြင့် ရှင်းပြပါ။ အမှန် အတိုင်း တင်ပြဆွေးနွေးပါ။

ရိုးသားမှုရှိနေခြင်းသည် လူငယ်တိုင်း၏စိတ်ကို ကြည်လင်ချမ်းမြေ့ စေပါ၏။

ရှုပ်ထွေးပွေလီသောလောကတွင် အမှန်တရားကို ပြောဆိုရန် မလွယ်ကြောင်း သိပါ၏။ သို့သော် မြန်မာလူငယ်တိုင်း ထိုမလွယ်ကူ မှုကို ကျော်ဖြတ်ကာ အမှန်တရားကိုသာ ပြောဆိုဖို့ ဆုံးဖြတ်ပါ။ သင်၏လိပ်ပြာသည် သန့်နေပါမည်။ သင့်လိပ်ပြာသန့်နေလျှင် မိတ် ကောင်းဆွေမွန်များနှင့် မိတ်ဖြစ်မှု မပျက်နိုင်ပါ။

ရိုးသားမှုသည် အကောင်းဆုံးဝါဒတစ်ရပ်သာ မဟုတ်။ အမှန်ဆုံး ဝါဒလည်း ဖြစ်ပါသည်။

Honesty is not only the best policy, but also the right policy.

◆

## မိမိကိုယ်မိမိ ရင့်ကျက်အောင်နေပါ

တစ်ဖက်သတ်အချစ်ဟာ ဝတ္ထုတွေ၊ တီဗွီအချစ်ဇာတ်လမ်းတွေ၊ တေးသီချင်းတွေ နားထောင်ရာကနေ အခွေး စိတ် ပိုကဲပြီးပေါက်ဖွား စေနိုင်တယ်။ ဒါကြောင့် လူကြီးတွေဟာ အရင်က သားသမီးတွေကို စိတ်ကူးယဉ် အချစ်ဝတ္ထုတွေ မဖတ်ဖို့ တားမြစ်ကြတာဖြစ်တယ်။ တန်ဖိုးရှိတဲ့ဘဝကို စိတ်ကူးယဉ်အချစ်နဲ့ အစားမထိုးပါနဲ့။ မိမိကိုယ် မိမိ ရင့်ကျက်အောင်နေပါ။

အခန်း (၁၃)

## ကျွန်မ သူ့ကို တစ်ဖက်သတ်ချစ်နေတယ်။ ဘာလုပ်ရမလဲ။ ကုန်းအော်လိုက်ရမှာလား

**မေး** ။ ။ ကျွန်မ သူ့ကို တစ်ဖက်သတ်ချစ်နေတယ်။ သူနဲ့ကျွန်မ အသက်အရွယ်ရော၊ အဆင့်အတန်းပါ ကွာဟာမှုတော့ ရှိပါတယ်။ သူက ကျွန်မထက် အစစအရာရာမြင့်မားနေတာ အမှန်ပါပဲ။ ဒါပေမယ့် ကျွန်မ သူ့ကိုချစ်နေတာက ခက်တယ်။ သူ့ကို တစ်ဖက်သတ်စိတ်နဲ့ ကျိတ်ဆွေးနေရတယ်။ ကျွန်မ ဘာလုပ်ရမလဲ။ ကျွန်မ ကျွန်မရဲ့ ခံစားချက်ကို အန်ထုတ်ရမလား။ ကုန်းအော်လိုက်ရမလား... ။

တစ်ဖက်သတ်ချစ်နေမိသူ

**ဖြေ** ။ ။ ဦးတို့ခေတ်က သီချင်းတစ်ပုဒ်ရှိတယ်။ အစအဆုံးတော့ လည်းမရတော့ဘူး။ သီချင်းစာသားက "တစ်ဖက်သတ်အချစ်ဟာ ဆိုးပါသည်...အသက်မကချစ်တာ ခက်လှသည်"ဒီတော့ တူမလည်း ဒီပုံဒီသောင် ဒီကမ်းဆိုက်နေပြီထင်ပါတယ်။ တစ်ဖက်သတ်အချစ်ဟာ ဆိုးတာအမှန်ပဲ။ လင်မယားဘဝဆိုတာတောင် ကွဲသေး

တယ်။ ရည်းစားဘဝဆိုတာကလည်း တည်မြဲကြတာမဟုတ်တဲ့အထဲ တူမကြီးက တစ်ဖက်သတ်ချစ်တာဆိုတော့ ဘာမှကို မသေချာတဲ့ အလုပ်ကို လုပ်မိနေတာကိုး။ ဒီထက်မိုက်တာတော့ ဘာမှမရှိတော့ပါဘူး။ လူငယ်တွေမှာ တပ်မက်ခြင်းဆိုတာ ရှိပါတယ်။ လူငယ်တွေရဲ့ တပ်မက်ခြင်းဟာ သူတို့ရဲ့ အတွေးအခေါ် အပြုအမူတွေကို စိုးမိုးထားတတ်ကြတယ်။ တူမကြီးက အခု သူ့ကို တစ်ဖက်သတ်ချစ်နေတယ်။ တစ်ဖန် သူနဲ့ကိုယ်ကလည်း အသက်အရွယ်ရော ဂုဏ်အဆင့်အတန်း ကွာဟမှုရှိနေတယ်။ ဒီတော့ တူမကြီး တစ်ဖက်သတ်ချစ်နေသူဟာ တူမကြီးထက် အတန်းကြီးတဲ့လူ၊ တူမကြီးစိတ်ထဲ အမြဲဟီးရိုးဖြစ်နေတဲ့ ကျူရှင်ဆရာ၊ တလောကမှ တူမကြီးတို့အိမ်ရှေ့မှာ ဆေးခန်းလာဖွင့်တဲ့ ဆရာဝန်လေး၊ ဒါမှမဟုတ် နာမည်ကြီး အဆိုတော်တစ်ဦး စသည်တို့ဖြစ်မှာပေါ့။ ဒါကလည်း သူတို့ရဲ့ ဂုဏ်ပုဒ်တွေ ငွေကြေးချမ်းသာမှုတွေကို တပ်မက်ပြီး တူမကြီး ချစ်နေတာမဟုတ်ပါဘူး။ သူတို့ရဲ့ရုပ်ရည်၊ အထင်ကြီးစရာတွေ သဘောကျပြီး ချစ်နေမိတာ သေချာပါတယ်။

ခက်တာက မိန်းကလေးတွဟာ ယောကျ်ားလေးတွေထက် စောပြီး လူမှုဆက်ဆံရေး တည်ငြိမ်တဲ့သဘောသဘာဝ ရှိကြတယ်။ ဒီတော့ မိန်းကလေးတွေဟာ ချစ်ကြပြီဆိုရင် တန်းတူရွယ်တူ ယောကျ်ားလေးတွေထက် မိမိထက်အသက်ကြီးသူ၊ လက်လှမ်းမမီနိုင်သူ၊ ကျောင်းဆရာ စသည်တို့ကို ချစ်တတ်ကြပါတယ်။ ဒါဖြင့် မိန်းကလေးဆိုတာက အားကိုးအားထား အမှီပြုနိုင်လောက်တဲ့သူကိုမှ အားထားချစ်တာကိုး။ မုန့်ပေးကြိုက်တယ်ဆိုတာတော့ စကားရှိပါတယ်။ ဒါက ရှားတယ်။

တစ်ခါတလေတော့လည်း **လူငယ်တွေဟာ မိမိတို့ရဲ့ ပျိုမျစ်နုစ်လိုဖွယ်ကောင်းတဲ့အချိန်မှာ ပေါက်ဖွားအန်ထွက်လာတဲ့ ပြင်းပြတဲ့ အာသာဆန္ဒကို ထိန်းချုပ်ဖို့ မတတ်နိုင်သေးတဲ့အတွက် ကြွနေတဲ့ အချစ်စိတ်ဟာ ရောက်တတ်ရာရာမှာ ဒလဟော သွန်ချတာမျိုးလည်း ဖြစ်တတ်ပါတယ်။**

တစ်ဖက်သတ်အချစ်ဟာ ဘယ်လောက်ဆိုးလဲဆိုရင် တစ်ဖက်သတ်ချစ်ခဲ့ဖူးတဲ့ မိန်းကလေးတစ်ယောက်က သူ့ရဲ့အဖြစ်ကို ပြန်ပြောရာမှာ "ကျွန်မသူ့ကို တစ်ဖက်သတ်စွဲလမ်းနေတယ်။ သူက ကျွန်မ သိပ်ကြိုက်တဲ့ အဆိုတော်တစ်ယောက်ပါပဲ။ သူ့ကို ကျွန်မရဲ့ရည်းစား ဖြစ်စေချင်တယ်။ ဖြစ်ပါစေလို့လည်း ဆုတောင်းတယ်။ သူ့ဓာတ်ပုံတွေကို အများကြီးစုထားတယ်။ သူ့အယ်လ်ဘမ်ကိုဖက်ပြီး ကျွန်မ အိပ်တယ်။ သူနဲ့ပတ်သက်တာတွေ အကုန်လုံး ကျွန်မ ဝယ်ပြီးစုထားတယ်။ သူ့ကိုမရရင် ကျွန်မကိုယ်ကျွန်မ သတ်သေမယ်ဆိုတဲ့အခြေအနေအထိ ကျွန်မ ရောက်ခဲ့တယ်"လို့ ဆိုပါတယ်။

တကယ်တော့ ဒါဟာ မိုက်ရူးရဲဆန်မှုသက်သက်ပါပဲ။ ဘာမှလည်း အကျိုးမရှိပါဘူး။ မျှော်လင့်သောအရာသည် ဖင့်နွှဲ့နေလျှင် စိတ်နှလုံးကို ညှိုးချုံးပူပန်စေသည်မှာ အမှန်ဖြစ်ပါတယ်။ မိမိမျှော်လင့်တဲ့အရာက ကောင်းကင်က ဖိုးလမင်းကြီးဖြစ်နေတော့ ခက်တာပေါ့။ ညှိုးချုံးပူပန်ရုံကလွဲလို့ ဘာဖြစ်လာမှာလဲ။ တစ်ဖက်သတ်ချစ် ဝေဒနာရှင် မိန်းကလေးတစ်ယောက်ကတော့ သူ့ရဲ့အဖြစ်ကို ဝန်ခံရာမှာ "သူ့ကို ကျွန်မ တစ်ဖက်သတ်ချစ်နေတုန်းက ကျွန်မလေ စားလည်းဒီစိတ်၊ အိပ်လည်းဒီစိတ်၊ စားလည်းမဝင်၊ အိပ်လည်းမပျော်၊ စာကျက်

လို့လည်းမရ၊ နေ့ခင်းကြောင်တောင်မှာတောင် သူ့အကြောင်းပဲ တွေးပြီး ငေးနေမိပါတယ်”လို့ ဆိုပါတယ်။

ကဲ...တစ်ဖက်သတ်အချစ်ဟာ ဆိုးနေတာ မှန်နေပြီပေါ့။ စာကျက်ရမယ့်အရွယ်မှာ ရုပ်မြင်သံကြားကလာတဲ့ အဆိုတော်ကို စွဲပြီး စာကျက်ခြင်း လုံ့လလျော့နည်းလာတယ်ဆိုတာကတော့ ဘယ်ကောင်းပါ့မလဲ ကွယ်...။

တစ်ဖက်သတ်ချစ်မိကြတာကတော့ သမီးတစ်ယောက်တည်း မဟုတ်ပါဘူး။ လူ့သမိုင်းမှာ ပညာရှိသုခမိန်ကြီးဖြစ်တဲ့ ဆော်လမွန် ဘုရင်ကြီးတောင် မိန်းကလေးတစ်ယောက်ကို အရူးအမူးချစ်ခဲ့တာပါ။ ဆော်လမွန်ဘုရင်ကြီးက သူ တစ်ဖက်သတ်ချစ်ခဲ့တဲ့ သူ့ချစ်သူ မိန်းကလေး ဟာ လကဲ့သို့ တင့်တယ်ပါတယ်၊ နေကဲ့သို့ ကြည်လင်ပါတယ်လို့ တင်စားပြီး အလှပဆုံးကဗျာကို ဖွဲ့ဆို သီကုံးခဲ့ပါတယ်။။

ဒါပေမယ့် တစ်ဖက်သတ်အချစ်ဟာ အခြေအမြစ်မဲ့တဲ့ကိစ္စ လုံးလုံးလျားလျားဖြစ်လို့ ဘာမှမရေရာဘူးဆိုတဲ့အချက်ကို ခေါင်းထဲမှာ သံမှိုစွဲသလို မှတ်ထားရပါမယ်။ ဒီကိစ္စကို ခေါင်းအေးအေးထားပြီး စဉ်းစားရပါမယ်။ မိမိကလည်း သူ့ကို ချစ်ပါတယ်လို့ ထုတ်ပြော ထုတ်အန်လို့မရတဲ့အခြေအနေ မဟုတ်လား။ သူနဲ့ ချစ်စခန်းဖွင့်ဖို့ ဆိုတာဝေး။ သူက ကိုယ်ရှိတယ်ဆိုတာ သိချင်မှသိမှာ။

ဦးတို့တက္ကသိုလ်မှာတုန်းက သူဌေးသမီး ပညာတတ်မိန်းကလေး တစ်ယောက်က ပရက်စလီကို တစ်ဖက်သတ်ချစ်နေတာကို မိဘတွေ ကလည်း ပရက်စလီနဲ့ သူတို့သမီးနဲ့ အဝေးကြီးပဲဆိုပြီး တားမြစ်ဆုံးမ တာ မပြုခဲ့ဖူးတဲ့ အဲဒီမိန်းကလေးက ပရက်စလီနဲ့တူတဲ့၊ သူတို့အိမ်ကို

နေ့တိုင်းစာလာပို့တဲ့ စာပို့လုလင်လေးနဲ့ လိုက်ပြေးတဲ့ ဇာတ်လမ်းတစ်ပုဒ် ရှိခဲ့ဖူးပါတယ်။

တစ်ဖက်သတ်အချစ်ဟာ အချစ်ဝတ္ထုတွေ၊ တီဗွီအချစ်ဇာတ်လမ်းတွေ၊ တေးသီချင်းတွေ နားထောင်ရာကနေ အခွေးစိတ်ပိုကဲပြီး ပေါက်ဖွားစေနိုင်ပါတယ်။ ဒါကြောင့် လူကြီးတွေဟာ အရင်က သားသမီးတွေကို စိတ်ကူးယဉ်အချစ်ဝတ္ထုတွေ မဖတ်ဖို့ တားမြစ်ကြတာပဲ။ ထင်းမရှိ မီးသေဆိုတဲ့ စကားပုံလေးကလည်း သတိထားစရာပါ။ အကယ်လို့ တစ်ဖက်သတ်အချစ် လွန်ကဲလာပြီဆိုရင် ဆင်ခြင်တုံတရားကို သတိထားပါ။ မမီတဲ့ပန်းကို တုံးချပြီး မလှမ်းပါနဲ့။ မိမိရဲ့တန်ဖိုးရှိတဲ့ ဘဝကို စိတ်ကူးယဉ်အချစ်နဲ့ အစားမထိုးပါနဲ့။ မိမိကိုယ်မိမိ ရင့်ကျက်အောင်နေပါ။ မိမိဝါသနာပါရာကိစ္စတစ်ခု လုပ်ငန်းတစ်ခုတွင် နှစ်မြုပ်ထားပါ။ အလုပ်များနေပါစေ။ ကာယလေ့ကျင့်ခန်းပြုလုပ်ပါ။ သစ်ပင်စိုက်ပါ။ အိမ်မှုကိစ္စများ ဝိုင်းကူညီဆောင်ရွက်ပါ။ မိဘများရဲ့အလုပ်ကို ကူညီပါ။

တစ်ဖက်သတ်အချစ်ဆိုသောအရာသည် အံ့ဩစရာကောင်းလောက်အောင် သက်တမ်းတိုတောင်းမှုရှိပါသည်။ အချိန်ကုန်လွန်ခဲ့သည်နှင့် ဝေဒနာသည် အလိုလိုသက်သာလာပါမည်။ ထိုအခါ မိမိခံစားချက်ကို မိမိ နားလည်လာပါမည်။ သင်ရင့်ကျက်လာသည်နှင့် မကြာမီ အချစ်စစ် အချစ်မှန်ကို တွေ့လာမည်ဖြစ်ပါသည်။

◆

## သိနားလည်ရမည့်အရာ

မောင်နှမ ညီအစ်ကိုများအတွင်း မပြေလည်မှု၊ မကြည်လင်မှု ပြဿနာရှိမှုသည် ရှိကောင်းသည့်ကိစ္စမဟုတ် ဆိုသောအချက်ကို ရှေးဦးစွာ ညီအစ်ကိုမောင်နှမများ သိနားလည်ထားရမည်ဖြစ်သည်။

ပန်းမျိုးတစ်ရာစာပေ

## အခန်း (၁၄)

# ကျွန်မ အစ်ကိုနဲ့အစ်မဟာ ပေါင်းရခက်နေတယ်။ အမေတို့ အဖေတို့ကလည်း မျက်နှာလိုက်တယ်လို့ထင်တယ်။ ကျွန်မ ဘာလုပ်ရမလဲ...

**မေး** ॥ ॥ ကျွန်မရဲ့ အစ်ကိုနဲ့အစ်မဟာ ဘာကြောင့် ပေါင်းရခက်နေတယ်ဆိုတာကို ကျွန်မ နားမလည်နိုင်တာပါပဲရှင်။ ကျွန်မတို့ ညီအစ်ကိုမောင်နှမများ မကြာခဏ ပဋိပက္ခရှိကြပါတယ်။ ကျွန်မ ဒီကိစ္စကို မလိုလားပါဘူး။ အဲဒါ ဘာကြောင့်လဲ။ ဒီပြဿနာကို ဘယ်လို ဖြေရှင်းရမလဲ။ ကျွန်မတော့ တချို့ကိစ္စတွေမှာ အမေတို့ အဖေတို့ မျက်နှာသာပေးတာလည်း ပါတယ်လို့ထင်တာပဲ။

မတင်တင်ဌေး(အင်းစိန်)

**ဖြေ** ॥ ॥ မတင်တင်ဌေး–

မတင်တင်ဌေးတို့ ညီအစ်ကိုမောင်နှမတွေ ဘယ်လောက်ရှိသည်၊ ညီအစ်မတွေ ဘယ်လောက်များသည်ဆိုတာ မသိပါ။ ဒါပေမယ့်

မတင်တင်ဌေးရဲ့အမေးကို ဖြေရရင် မတင်တင်ဌေးတို့ ညီအစ်ကို မောင်နှမတွေကျမှ မတည့်ကြတာ မဟုတ်ပါဘူး။ ညီအစ်ကိုမောင်နှမ တော်တော်များများဟာ ဒီလိုပဲ မတည့်ကြတာတွေ ရှိပါတယ်။ အချို့ မိသားစုတွေကျတော့ မိဘအရိပ်ကို ခိုလှုံနေကြကတည်းက မတည့်ကြ ဘူး။ အချို့ကျတော့လည်း မိဘပစ္စည်း အမွေခွဲတဲ့အခါ အိမ်ထောင် ရက်သားကျပြီး သူစိမ်းတစ်ရံတွေ ဝင်လာတဲ့အခါ မောင်နှမတွေ မတည့်ကြတော့ဘူး။ မောင်နှမတွေ မတည့်ကြတဲ့အကြောင်းမှာ အကြောင်းအရာတစ်ချက်က စိတ်ပိုင်းဆိုင်ရာကြောင့်ဖြစ်ပြီး အကြောင်း အရာတစ်ချက်ကတော့ ရုပ်ပိုင်းဆိုင်ရာ ခွဲဝေမှုကစပြီး မတည့်ကြရာက ဖြစ်တတ်တာ များပါသည်။

စိတ်ပိုင်းဆိုင်ရာကြောင့် ဖြစ်ရတာက အငယ်မကို မိဘတွေက ပိုပြီး အရေးပေးတယ်လို့ ထင်တာမျိုး၊ အငယ်မက အစစအရာရာ ကံကောင်းနေတာမျိုး၊ အငယ်မ ဝင်လာလို့ မိဘက မိမိအပေါ်ချစ်တဲ့ အချစ်တွေ လျော့သွားတယ်လို့ ထင်မှတ်စွဲလမ်းတာတွေက စပြီး မောင်နှမ ညီအစ်ကိုတစ်တွေ မပြေလည်တတ်ကြတာပါ။

နောက်တစ်ခုက မိဘရဲ့ပစ္စည်း၊ ဥစ္စာအမွေခံစားခွင့်၊ ငွေကြေး အဝတ်အစားကအစ အဲဒါတွေကို ငါရထိုက်တယ်၊ သူရထိုက်တယ်၊ သူကပိုရတယ်၊ ငါကလျော့ရတယ်လို့ ထင်မှတ်ရာက မပြေလည်မှုတွေ ရှိတတ်ကြပါသည်။ ဥပမာ ဦးမိတ်ဆွေရဲ့သားတစ်ဦးကို ဦးက မေးကြည့်ဖူးပါသည်။ သူက ကျွန်တော့်အဓိကပြဿနာက ဘိန်းဖြူစွဲ နေတာလည်း မဟုတ်ဘူး။ မုန့်ဖိုးပိုယူချင်တာလည်း မဟုတ်ဘူး။ ကျွန်တော်ကြိုက်နေတဲ့ ကောင်မလေးကို အဖေနဲ့အမေက သဘော မတူတာလည်း မဟုတ်ဘူး။ အဓိကတော့ ကျွန်တော့်အခန်းထဲမှာ

ကျွန်တော်တစ်ယောက်တည်း နေချင်တယ်။ သူတို့ကို အပြင်ထွက်ခိုင်းချင်တယ်။ ဒါပေမယ့် သူတို့က အဲဒီအခန်းထဲမှာ တစ်ချိန်လုံး အမြဲရှိနေတာက ကျွန်တော့်အတွက် အဓိကပြဿနာပါပဲဟု ဆိုပါ၏။

အချို့မိသားစုများမှာတော့ အသက်ကြီးသူများက မိသားစုအတွင်း အိမ်မှုတာဝန်များကို ပို၍ယူကြရသည်။ ပင်ပန်းတဲ့အစိတ်အပိုင်းများကို အကြီးများလုပ်ကြရပေရာ ထိုကိစ္စကို အကြီးများက လက်မခံချင်ဘဲ ရှိကြရာက စိတ်ဝမ်းကွဲမှုများလည်းရှိကြ၏။ တစ်ခါတစ်ရံ အငယ်များကလည်း အကြီးများ၏ အမိန့်ပေးစေခိုင်းမှုများကို မနှစ်မြို့ရာမှ မပြေလည်မှုများ စတတ်၏။

မောင်နှမတစ်တွေ မပြေလည်မှုနှင့်ပတ်သက်၍ ၁၇ နှစ်အရွယ် လူငယ်တစ်ဦးက "တစ်ယောက်နဲ့တစ်ယောက်က တစ်နေကုန် တွေ့နေရတယ်။ ပြီးတော့ ကိုယ်မကြိုက်တာကို သူက လုပ်နေတယ်ဆိုပါတော့။ ဒါဆိုရင် ဒီလိုပဲ နေ့တိုင်း ရန်ဖြစ်နေကြတော့မှာပါပဲ"ဟု ပြောဆိုပါ၏။

တစ်ဦးကတော့ "သူပေါ့(သူ၏ညီမဖြစ်သူ) ကားလိုင်စင်လုပ်တုန်းကလည်း သူပဲအရင်ရတယ်။ အခု သူပဲ အရင်ယောကျ်ားယူပါရစေလို့ အမေတို့ အဖေတို့ကို ပူဆာနေတယ်လေ"ဟု ဆိုပါ၏။

နောက် လူငယ်တစ်ယောက်က "အစ်ကိုဟာ ဘယ်တော့မှ သူ့ပစ္စည်းကို သူ ဝယ်မသုံးဘူး။ ခေါင်းလိမ်းဆီကအစ ကျွန်တော့်ပစ္စည်းကို ယူသုံးတယ်။ နောက်ပြီး သူကပြောသေးတယ်။ ဒီကောင်ဟာ ပစ္စည်းကောင်းကို ဝယ်မသုံးတတ်ဘူးတဲ့"ဟု ဆိုပါ၏။

ကဲ...ဘယ်လိုအကြောင်းကြောင့်ပဲ မောင်နှမညီအစ်ကိုတစ်တွေ မပြေလည်မှု မကြည်လင်မှုရှိပါစေ၊ ညီအစ်ကိုမောင်နှမအတွင်း မကြည်

လင်မှု၊ မပြေလည်မှု ပြဿနာရှိမှုသည် ရှိကောင်းသည့်ကိစ္စမဟုတ် ဟူသောအချက်ကို ရှေးဦးစွာ ညီအစ်ကိုမောင်နှမများ သိထားကြရမည်ဖြစ်ပါ၏။ မရှိကောင်းသောအလုပ်ကို ကျွန်ုပ်တို့ ခြွင်းချက်မရှိ ရှောင်ကြဉ်ကြရမည်ဖြစ်ပါ၏။

**မောင်နှမ ညီအစ်ကိုတစ်တွေ မတည့်မှု ပြဿနာဖြစ်မှုသည် သဘောထားကွဲလွဲချက်များ၊ အမြင်မှားမှုများကြောင့် ဖြစ်တတ်ရာ ကွဲလွဲချက်များကို ကန့်သတ်ရပါမည်။ ကွဲလွဲချက်များ မကျယ်ပြန့်စေရန် မီးတားကျင်းများ ပြုလုပ်ကြရပါမည်။** ညီအစ်ကိုမောင်နှမများအတွင်း ငြင်းခုံမှု သဘောထားကွဲလွဲမှုများ တစ်စုံတစ်ရာ မပေါ်ပေါက်မီ တစ်ဦးနှင့်တစ်ဦး ညှိနှိုင်းမှု စည်းကမ်းသတ်မှတ်ချက်များ ပြုလုပ်ကြရပါမည်။ မိမိတို့သည် ဒီမိဒီဖမှ တစ်အူထုံ့ဆင်း ညီရင်းအစ်ကိုများ ဖြစ်ကြသည်ကို မမေ့ရန်လိုပါသည်။ ထို့နောက် ညီအစ်ကိုမောင်နှမများသည် တစ်ဦး၏ခေါင်းကို တစ်ဦးနင်း၍ ဆင်းလာကြသူများဖြစ်သည်။ ဤအမိ ဤအဖအရိပ်ကို အတူတကွ ခိုနေကြသူများဖြစ်သည်ဆိုသောအချက်ကို မမေ့ရန် လိုအပ်ပါသည်။

ငါက ညီပဲ၊ ငါက အစ်ကိုပဲဆိုပြီး ဘယ်သောအခါမှ တစ်ဖက်သတ် အခမ့်မလုပ်ပါနှင့်။ ညီအစ်ကိုမောင်နှမများအတွင်း ပိုင်ဆိုင်မှုသည် မိမိကိုယ်ပိုင် ပိုင်ဆိုင်မှုမရှိသေးပါ။ မိဘ၏ပိုင်ဆိုင်မှုကို ခွဲဝေသုံးစွဲခြင်းဖြစ်ရာ ပစ္စည်းပိုင်ဆိုင်သူသည် မိဘသာဖြစ်သည်ဆိုသောသဘောထားပါ။ တတ်နိုင်သမျှ ခွဲဝေသုံးစွဲရမည်ဆိုသော သဘောမျိုးထားပါက ပိုမိုသင့်လျော်ပါ၏။ ခွဲဝေသုံးစွဲသောပစ္စည်းများကို မသုံးစွဲမီက အပြန်အလှန် ခွင့်တောင်းခြင်းများလည်း ပြုသင့်၏။ လိုအပ်လျှင်

ညှိနှိုင်းဖြေရှင်း၍ အလျှော့ပေးမှုများ ပြုလုပ်ပါက မီးသည် မလောင်မီ ငြိမ်းသွားနိုင်သည်။

တစ်ဖန် မိမိတို့ ညီအစ်ကိုမောင်နှမများကို လမ်းမှားသို့ တွန်းပို့နေသူ၊ သဘောထားကွဲလွဲအောင် ဖန်တီးနေသူများ ရှိပါကလည်း ထိုသူကို ကြားဝင်မခံပါနှင့်။ ကြားလူမဝင်ရန် မောင်နှမ ညီအစ်ကိုတစ်တွေ မိသားစုအတွင်း မေတ္တာစိတ်ဖြင့် အစဉ်နေထိုင်ရန် ကြိုးစားကြရမည်ဖြစ်ပါ၏။

အဓိက အရေးကြီးသည်မှာ ညီအစ်ကိုမောင်နှမတစ်တွေသည် ချွတ်ယွင်းချက်မရှိ ချစ်ခင်ညီညွတ်ရမည်ဆိုသည့်အချက်မှာ ဗုဒ္ဓ၏ တရားတော်၊ ဘုရားသခင်၏ လမ်းညွှန်မှုပင်ဖြစ်ပါ၏။ ဗုဒ္ဓမြတ်စွာဘုရားက သတ္တဝါအားလုံးကို မေတ္တာထားရမည်ဟုဆိုပါလျှင် ညီအစ်ကိုမောင်နှမများအတွင်း၌ကား မေတ္တာတရားသည် ဆိုဖွယ်ရာမရှိပြီဖြစ်၏။ သမ္မာကျမ်းစာအရ အစ်ကို အစ်မများရှိခြင်းသည် ဘုရားသခင်၏ ကရုဏာတော်ဖြစ်သည်ဟု ဆိုပါ၏။ တမန်တော် မိုဟာမက်၏ဆန္ဒကလည်း တစ်သဘောတည်းသာဖြစ်သည်။ ညီအစ်ကိုမောင်နှမတွေ ဆိုသည်မှာ ရန်ဖြစ်ဖို့မဟုတ်။ ပျော်ဖို့ပင်ကောင်းလှသည်။ စကားပြောဖော် တိုင်ပင်ဖော်ရသည်။ လုပ်ရမည့်အလုပ်တွေကို မခိုမကပ်ဘဲ ခွဲဝေလုပ်ကြရမည်။ အစ်ကိုနှင့် အစ်မများသည် အကြံပေးနိုင်သူများ နားထောင်သူများဖြစ်ရုံသာမက နားလည်နိုင်သူများလည်း ဖြစ်သည်ကို မမေ့ပါနှင့်။

မိမိတို့အချင်းချင်း မပြေလည်သည်ကို မိဘများက မျက်နှာသာပေးတာ ဘာညာနှင့် မပြောပါနှင့်။ ညီအစ်ကိုမောင်နှမ ဆိုသည်မှာ

ညီညွတ်ရမည်။ ချစ်ခင်ရမည်၊ ကြင်နာရမည်၊ အပြန်အလှန်ရိုကြရမည် ဆိုသောအချက်မှာ ဥပဒေသသာလျှင်ဖြစ်သောကြောင့် တစ်အူထုံ့ဆင်း ညီအစ်ကိုမောင်နှမများ သွေးမကွဲရန် လိုအပ်ပါသည်။ နွားကွဲလျှင် ကျားဆွဲခံရပါမည်။ ပြည်ထောင်စုအတွင်း စုပေါင်းနေထိုင်ကြသော တိုင်းရင်း သားညီအစ်ကိုမောင်နှမများသည်လည်း ထိုသဘောအတိုင်း သာဖြစ်သည်။

ဥမကွဲသိုက်မပျက်ဆိုသောစကား၊ အရေးကြီးက သွေးနီးသည် ဆိုသောစကား၊ မှန်သမျှဆိုသည်မှာ ပတ္တမြား သံသယဆိုသည်မှာ အလကားဆိုသည်များလည်း ရှိပါသည်။ ဒါတွေကို အလေးအနက် ထား၍ မိမိက စပြီး ပြေလည်အောင်နေထိုင်ရေးကို ကြိုးပမ်းဖို့ မဌေးဌေးစင်းအား အလေးအနက်တိုက်တွန်းရင်း အမေးကို ဖြေကြား အပ်ပါသည်။

◆

## အလှအပတစ်ရပ်

မိဘများအပေါ် လေးစားပါ။ တည်ငြိမ်စွာနေပါ။ မိဘများကို အာဃာတဖြင့် စိတ်ထဲမှပင် မပြစ်မှားပါနှင့်။ ထိုသို့ပြုပါက မိမိပင် အကျိုးမဲ့ ပျက်စီးရာသို့ရောက်တတ်သည်။ မိဘများနှင့်ပတ်သက်ပါက တစ်ဖက်သတ် သည်းခံခြင်းသည် အလှအပတစ်ရပ်ဖြစ်သည်။

ပန်းမျိုးတစ်ရာစာပေ

## အခန်း (၁၅)

**အဖေက အရက်သောက်တယ်။ အမေနဲ့က အမြဲရန်ဖြစ်နေကြတယ်။ ကျွန်တော် ဘာလုပ်ရမလဲ...အဖေ့လိုပဲ အရက်လိုက်သောက်ရမလား**

**မေး** ။ ။ ဆရာချစ်စံဝင်းက မိဘမေတ္တာ အမေ့မေတ္တာ စသည် တို့ကို အစဉ်မပြတ်ရေးတာ အချို့ကို ဖတ်ဖူးပါတယ်။ ကျွန်တော့် ပြဿနာက ကျွန်တော့်အဖေက အရက်သောက်တယ်၊ အရက်သောက် လာရင် အမေနဲ့ ရန်ဖြစ်ကြတော့တာပဲ။ အမေက သိပ်စာမတတ်ဘူး။ သေစာရှင်စာပဲ တတ်ပါတယ်။ အဖေနဲ့ ရန်ဖြစ်ပြီဆို အမေ့စိတ်ကလည်း လက်တစ်ဆစ်တောင် မရှိတော့ဘူး။ အဖေနဲ့ အမေ ရန်ဖြစ်တဲ့အတွက် ရလဒ်ကတော့ ကျွန်တော် သို့မဟုတ် ကျွန်တော့်ညီ အရိုက်ခံရတာ ကျောပြင်ကြီးကို လက်ဝါးနဲ့ ဖျန်းခနဲ အချခံရတာ များတာပါပဲ။ အခု ကျွန်တော် ဆယ်တန်းရောက်ပါပြီ။ ကျွန်တော် ဘာလုပ်ရမလဲ။ အဖေ့လိုပဲ အရက်၊ ဒါမှမဟုတ် မူးယစ် ဆေးပဲ ချရမလား၊ အိမ်ကပဲ ထွက်သွားရ မလား ခင်ဗျား–

မောင်ဒွေးဝင်း(ဒိုက်ဦး)

**ဖြေ** ။ ။ မိသားစုများတွင် မတူညီသော အယူအဆများ၊ မပြေ လည်သော စီးပွားရေးအခြေအနေများကို အခြေခံ၍ မိဘ

နှစ်ပါး ပဋိပက္ခများ ရှိတတ်ကြပါသည်။ ထိုအခြေအနေတွင် သားသမီးများ မည်သို့ခံစားရသည်ကို ကိုယ်ချင်းစာ၍ရပါသည်။ ထိုသို့သော သားသမီးများသည် မည်သို့သောအခြေအနေရှိစေခါမူ အမိနှင့်အဖကို လုံးဝဥဿုံ လေးစားရမည်ဟူသောအချက်သည် ခြွင်းချက်မရှိ လက်ခံရမည့်အချက် ဖြစ်ပါသည်။

ဘုရား၊ တရား၊ သံဃာ၊ ဆရာ၊ မိဘတို့သည် အနန္တောအနန္တ ငါးပါးဂိုဏ်းဝင်များ ဖြစ်ကြသည်။ မိဘနှင့်ဆရာသမားကို ရတနာသုံးပါးနှင့် တစ်ဂိုဏ်းတည်းထား၍ ကိုးကွယ်ကြသည်။ ဤကိစ္စသည် ဗုဒ္ဓဘာသာဝင်တို့၏ အရေးကြီးသောကိစ္စဖြစ်သည်။ မာတာပိတု ဂုဏော အနန္တော မိဘတို့၏ ဂုဏ်ကျေးဇူးသည် အဆုံးအစမရှိ ကျယ်ဝန်းသည်။ ထို့ကြောင့် မိဘဟူလျှင် လေးစားရိုသေကြရမည်သာဖြစ်သည်။ ဖခင်က အရက်သမား၊ မိခင်က ပညာမဲ့၍ တစ်ဦးနှင့်တစ်ဦး ရန်ဖြစ်နေရင်ရော ထိုသို့သာ မိဘများကို ရိုသေရပါမည်လားဟု မေးစရာရှိ၏။ **ဖခင်ကအရက်သမားဖြစ်၍ မိခင်က ပညာမဲ့ကာ မိဘနှစ်ပါးသည် အစဉ်ရန်ဖြစ်နေသည့်တိုင် သားသမီး၏ အလုပ်သည် ခြွင်းချက်မရှိ ရိုသေရမည်သာဖြစ်၏။**

ဆရာကြီးဦးသုခက (၂၃–၁–၉၇)နေ့ မန္တလေးမြို့မှာ ကျင်းပသော အမေနေ့မှာ "အမေသည် ယုတ်စွအဆုံး စာမတတ်ရုံ၊ အဖေနှင့် ရန်ဖြစ်ရုံသာ မဆိုထားဘိ၊ အမေသည် ပြည့်တန်ဆာဘဝ ရောက်နေပါစေ အမေသည် အမေသာလျှင်ဖြစ်ကြောင်း။ အမေကို ရိုသေရမည်။ လေးစားရမည်။ ချစ်ခင်မြတ်နိုးရမည်။ အမေ့အပေါ် သားသမီးတို့၏ ဝတ္တရား ကျေပွန်ရမည်ဟု အတိအလင်း ကြေညာခဲ့ပြီးဖြစ်ပါ၏။ အမေ၏ကျေးဇူးတရားကို ပြောရာတွင် အဖေလည်း တစ်ပါတည်း

ပါသလို အဖေ၏ ကြီးမြတ်သောဂုဏ်ကျေးဇူးကို ပြောကြားလျှင် အမိလည်း ပါဝင်သည်ဟု မှတ်ယူရမည်ဖြစ်ပါ၏။

အမိအဖသည် သင့်အား ပဋိသန္ဓေ စတင်တည်သည့်အချိန်မှစ၍ ဖဝါးလက်နှစ်လုံး၊ ပခုံးလက်နှစ်သစ်မှသည် လူဖြစ်အောင် အရွယ် ရောက်သည်အထိ လုပ်ကျွေးခဲ့သူသည် မိဘနှစ်ပါးပင်ဖြစ်၏။ မောင်ဒွေးဝင်း ၏ မိဘနှစ်ပါးသည် သူတို့ဟာသူတို့ ရန်ဖြစ်၍နေစေဓါမူ မောင်ဒွေး ဝင်းအား ဆယ်တန်းရောက်အောင် ပညာသင်ကြားပေးခဲ့သည် မဟုတ် ပါလော။

သင့်မိဘများကြောင့် သင်မွေးဖွားလာရခြင်းဖြစ်သည်။ ထို့တစ် ချက်တည်းနှင့် လေးစားထိုက်သည်ဟု အဆိုရှိပါသည်။ မိဘများသည် မောင်ဒွေးဝင်းပြောပြသလို ပကတိ အပြစ်ကင်းစင်သူများ ဖြစ်ကောင်း မှဖြစ်မည်မှန်သော်လည်း သူတို့သည် သင့်အပေါ် အနစ်နာခံခဲ့သူများ နှင့်လွှတ်ခဲ့သူများဖြစ်သည်မှာ သေချာလှပါ၏။ သင့်မိသားစုတွင် မိဘများဘက်က လွဲမှားနေလျှင် သင့်ဘက်က မှန်ကန်တည်ငြိမ်စွာ နေဖို့ ပို၍လိုပါသည်။ မိဘများက ၅၀ ရာခိုင်နှုန်း မှားသည်ကို သားသမီးတို့က ၅၀ ရာခိုင်နှုန်း လိုက်မှားလျှင် သင်တို့မိသားစုသည် ၁၀၀ ရာခိုင်နှုန်းမှားသောမိသားစုဘဝ ရောက်ချေတော့မည်ဖြစ်၏။ သားသမီးတို့၏ဘက်မှ ၅၀ ရာခိုင်နှုန်း လုံးဝ မမှားယွင်းရအောင် ဂရုစိုက်ရမည်ဖြစ်ပါ၏။

မိဘ၏ကျေးဇူးသည် အလွန်ကြီးမား၏။ ဆပ်၍မကုန်။ မြတ်စွာ ဘုရားသည်ပင် နို့တစ်လုံးဖိုးသာကျေသည်ဟု ဆိုကြ၏။ သို့သော် မိဘကျေးဇူးကို ကျေအောင်ဆပ်နိုင်သောနည်း ရှိ၏။ အကယ်၍

သင့်မိဘသည် အယူမှားနေ အမြင်မှားနေသည်ကို လမ်းမှန်သို့ရောက်အောင် ရှိသေစွာစောင့်ရှောက်သော သားသမီးတို့သည် ထိုအလုပ်ကြောင့် မိဘကျေးဇူးကြေအောင်ဆပ်နိုင်သော ယောကျ်ားကောင်း၊ ယောကျ်ားမြတ် သားကောင်းသားမြတ်ဘဝကို ရနိုင်မည်ဖြစ်ရာ မောင်ဌေးဝင်းအနေနှင့် အရက်သောက်ရန်၊ ဆေးချရန်နှင့် အိမ်မှထွက်သွားရန် စိတ်မကူးဘဲ ဖခင်ကြီး အရက်မသောက်ဖြစ်အောင် ကြိုးစားရေးသည် မောင်ဌေးဝင်း၏ တစ်ခုတည်းသောဘဝအရေးပင် ဖြစ်သည်။

မိဘများအပေါ် လေးစားပါ။ တည်ငြိမ်စွာနေပါ။ မိဘများကို အာဃာတဖြင့် စိတ်ထဲမှပင် မပြစ်မှားပါနှင့် ထိုသို့ပြုပါက မိမိပင် အကျိုးမဲ့ ပျက်စီးရာသို့ ရောက်တတ်ပါ၏။ မိဘများနှင့် ပတ်သက်လာပါက တစ်ဖက်သတ် သည်းခံခြင်းသည် အလှအပတစ်ရပ် ဖြစ်ပါ၏။ ချီးကျူးဖွယ်ရာကိစ္စတစ်ရပ် ဖြစ်ပါသည်။ မိဘများက ပြုမူသည်တို့ကို ထိခိုက်နစ်နာစရာကိစ္စဟု မောင်ဌေးဝင်း မမှတ်ယူစေလိုပါ။ မောင်ဌေးဝင်း နဖူးပေါ်လက်တင်၍ စဉ်းစားပါ။ ဖခင်ကြီး အရက်သောက်သည်မှာ မှန်၏။ မိခင်နှင့်ဖခင် ရန်ဖြစ်သည်မှာ မှန်ပါ၏။ သို့သော် သူတို့သည် မောင်ဌေးဝင်းနေသော အိမ်၏ခေါင်မိုးကို နေမပူ မိုးမရွာအောင် နှစ်စဉ် အမိုးမိုးပေးသူများ မဟုတ်ပါလော။ ထို့ပြင် မောင်ဌေးဝင်းတို့အိမ်မှ မီးဖိုချောင်တွင် ဆီ၊ ဆန်၊ ဆား၊ ငရုတ်၊ ကြက်သွန် နေ့စဉ်ဖြည့်ထားပေးသူများ မဟုတ်ပါလော။ ထို့ပြင် မောင်ဌေးဝင်း၏ ဖခင်ကြီးသည် သူကြိုက်တတ်သောအရက်ကို ချွေတာသောက်၍ မောင်ဌေးဝင်းအား ဆယ်တန်းရောက်အောင်

ကျောင်းထားခဲ့သူလည်း မဟုတ်ပါလော။ သားသမီးကို လျစ်လျူရှု သာမိဘဟူသည် လူနည်းစုသာလျှင်ဖြစ်ပါသည်။ ထိုလူနည်းစုတွင် ဆောင်ဒွေးဝင်း ပါဝင်နေရသည်ကိုလည်း ဝမ်းမနည်းပါနှင့်။ မိဘ ကျေးဇူး ကုန်စင်အောင်ဆပ်နိုင်ဖို့ အခွင့်အရေး မှတ်ယူပါ။

မိဘများအပေါ် အကောင်းဘက်မှ မြင်ပါ။ "မိဘနှစ်ပါးအား ငြင်းချက်မရှိ ရိုသေလေးစားရမည်"ဟူသောအချက်သည် ခေတ်နောက် ကျကောင်း ကျပါမည်။ သို့သော် ထိုသို့ပြုလုပ်ခြင်းသည် သင့်လျော်ရုံ သာမက မြတ်စွာဘုရားတို့၏ အလိုတော်အရဖြစ်၍ ဘုရားဟော တရားဓမ္မကို လိုက်နာသည်လည်း မည်သောကြောင့် ကုသိုလ်အကျိုး တရား ဖြစ်ထွန်းကာ အပါယ်တံခါးပိတ်ပြီး ဖြစ်ပါ၏။

မိဘများသည်လည်း ပုထုဇဉ်လူသားတို့ဖြစ်ကြရာ သူတို့လည်း လောကဓံတရား၏ ရိုက်ခတ်မှု၊ ကံ,ကံ၏လှည့်ဖြားမှုတို့ကို ခံကြရ သည်သာဖြစ်ပါ၏။ မြန်မာလူမျိုးတို့သည် အဖေ့ခြေရာ အမေ့ခြေရာ ကိုပင် ရိုသေမြတ်နိုးကိုးကွယ်သောလူမျိုး ဖြစ်ပါသည်။ ဤဖြေကြား ချက် မှန်ကန်ကြောင်း မောင်ဒွေးဝင်းသည် မကြာမီသော်လည်းကောင်း၊ သားဦးဖွားသောနေ့တွင်လည်းကောင်း ကောင်းကောင်းကြီး နားလည် မှာ ဖြစ်ပါသည်။

◆

## လူငယ်တိုင်းနားလည်ထားရမည့်အရာ

မိဘရဲ့ဆုံးဖြတ်မှု၊ မိဘရဲ့စိတ်ဆန္ဒကို ဆန့်ကျင်ပြီး ကိုယ်ပိုင်ရယူကြိုးပမ်းတဲ့ ဘယ်လူငယ်မဆို အဲဒီလူငယ်ရဲ့လုပ်ရပ်ဟာ အန္တရာယ်ကို ကျကျနနကြီး ဖိတ်ခေါ်နေတာသာဖြစ်တယ်ဆိုတာ လူငယ်တိုင်း ကြပ်ကြပ်နားလည်ထားဖို့ လိုပါတယ်။

အခန်း (၁၆)

## ကျွန်တော် အိမ်ကထွက်သွားချင်နေတယ်။
## အိမ်ကထွက်သွားရင် ပိုပြီးလွတ်လပ်မယ်ထင်တယ်။
## ကျွန်တော် ဘာလုပ်ရမလဲ။

**မေး** ။ ။ ကျွန်တော့်ပြဿနာကို အလျင်စလို ဖြေရှင်းပေးစေလိုပါတယ်။ ဘာကြောင့်လဲဆိုတော့ ကျွန်တော် အခုလောလောဆယ် အိမ်ကထွက်သွားချင်တဲ့စိတ် ပေါ်နေပါတယ်။ ကျွန်တော် ဆယ်တန်းအောင်ပြီးပါပြီ။ အမေ့အိမ်က ဆင်းပြီး အလုပ်တစ်ခုရှာမယ်၊ သူငယ်ချင်းတွေနဲ့ အိမ်ငှားနေမယ်။ စိတ်ကူးကြည့်ရင်တောင် အတော်လွတ်လပ်တဲ့ဘဝပါပဲ။ မိဘများနဲ့နေရတာ ကျွန်တော် လောင်းရိပ်မိနေတယ်။ အလျင်စလို ရင့်ကျက်မှုမရဘဲ ဖြစ်နေတယ်လို့ထင်ပါတယ်။ အမြန်ဖြေကြားစေလိုပါတယ်။ ကျွန်တော် အိမ်ကထွက်မသွားခင် အဖြေသိချင်လို့ပါခင်ဗျား–

မောင်ဝင်းသူ–ပဲခူးမြို့

**ဖြေ** ။ ။ မောင်ဝင်းသူရေ…ကိုယ့်တူမေးတဲ့မေးခွန်းကို အမြန်လည်း ဖြေပါမယ်၊ ပြည့်ပြည့်ဝဝလည်း ဖြေပါမယ်။ ပဲခူးသား ပန်းမျိုးတစ်ရာစာပေ

လုပ်ပြီး ကိုယ့်တူအနေနှင့် ဒီမေးခွန်းမျိုး မေးရလား ငါ့တူရာ။ ဦးတို့ မျက်နှာ ဦးတို့ ဓားနဲ့တောင်လှီးပစ်ချင်တယ်။ ဒါပေမယ့် မျက်နှာသစ် စရာမရှိမှာစိုးလို့ လှီးမပစ်တော့ပါဘူး။ တကယ်တော့ ကြွားတာမဟုတ် ပါဘူး။ ပြောပြတာပါ။ ဦးကိုယ်တိုင်က ပဲခူးသားပဲ။ ပဲခူးသူ၊ ပဲခူးသား လူငယ်တွေဆိုတာ ဆရာမိဘရဲ့ အဆုံးအမမှာ အင်မတန်တည်ကြတဲ့ လူငယ်တွေဖြစ်ပါလျက် မောင်ဝင်းသူကျမှ ဘယ်သူတွေနဲ့ ပေါင်းပြီး အိမ်က မြန်မြန်ခွာရရင် ကောင်းမလားလို့ စိတ်ကူးရတာလဲ။ ပဲခူးမှာ ဆရာကြီးသာဒင်ကျောင်း ရှိတယ်။ ဒီကျောင်းက ထွက်ရင်လည်း မိဘဆရာသမား အဆိုအဆုံးမတွေကို နားခံကြတဲ့လူတွေချည်းပဲ။ အဲ..အထက(၃) ဆိုတာကတော့ အမျိုးသားကျောင်းကြီးပဲ။ တစ် ကျောင်းလုံးက ဆရာကောင်းတပည့်တွေလေ။ အထက(၁)ကို ကြည့် ပါဦး။ ပဲခူးမြို့ အထက(၁)ဟာ သက္ကရာဇ် ၂၀၀၀ မှာ အနှစ်တစ်ရာ ပြည့်မှာမို့ အထက(၁)မှာ အနှစ် ၁၀၀ ပြည့်အထိမ်းအမှတ်ပွဲတော်ကြီး လုပ်ဖို့ ကြိုးစားနေကြတယ်။ အထက(၁)ရဲ့ စိတ်ဓာတ်က ဆရာက ကျောင်းသားကို သားသမီးလိုချစ်တယ်၊ တပည့်က ဆရာကို မိဘလို သဘောထားပြီး ပညာပေး ပညာယူကြတယ်။ ဒါဟာ အထက(၁) စိတ်ဓာတ်ပဲ။ ဦးကိုယ်တိုင်ဟာ ပဲခူးမြို့ ဆရာကြီးဦးသာဒင်ကျောင်း ကပါ။ ဦးတို့တပည့်တွေဟာ နှစ်စဉ် အသက် ၈၀ ကျော်ပြီဖြစ်တဲ့ ဆရာကြီး ဦးအောင်ဉာဏ်ကို စုပေါင်းကန်တော့ကြတယ်။ အထက (၁) ဆရာကန်တော့ပွဲကိုလည်း နှစ်စဉ်ကျင်းပကြတာပဲ။ ဒီကြားထဲက မောင်ဝင်းသူ ပဲခူးသားက အိမ်ကထွက်ခွာရရင် ကောင်းမလားလို့ စိတ်ကူးတာတော့ ဦး အားကြီးစိတ်ညစ်ရပါတယ်။

ကဲ... မောင်ဝင်းသူရဲ့ပြဿနာကို စဉ်းစားကြရအောင်–

မောင်ဝင်းသူ အိမ်မှာမနေချင်တော့တာ သေချာတယ်။ ဘာ အကြောင်းတွေကြောင့်ရယ်လို့တော့ အပြည့်အစုံမသိရပေမယ့် လောင်းရိပ် မိနေလို့ လွတ်လွတ်လပ်လပ်နေချင်လို့ဆိုတဲ့ သဘောထားကိုတော့ စာထဲမှာ တွေ့ရပါတယ်။

လွတ်လပ်မှုကို လိုချင်ပြီလို့ မောင်ဝင်းသူက ဆိုပါတယ်။ ပြန် စဉ်းစားရမှာက မောင်ဝင်းသူဟာ လွတ်လပ်မှုအတွက် အဆင်သင့် ဖြစ်ပြီလား၊ လွတ်လပ်ရလောက်အောင် ရင့်ကျက်နေပြီလား ဆိုတဲ့ အချက်ပါပဲ။ တကယ်တော့ လူငယ်တစ်ဦးအနေနဲ့ ကိုယ်တိုင် လွတ်လပ်မှုကို ဖန်တီးယူခြင်းဟာ မောင်ဝင်းသူထင်သလို လွယ်ချင်မှ လွယ်မယ့်ကိစ္စပါ။ အပြင်မှာ အခုအချိန် အလုပ်ရဖို့ဆိုတာကညး လွယ်တာမဟုတ်ပါဘူး။ အရင်ကလို ဆယ်တန်းအောင်ရုံနဲ့ အလုပ် ကလေးတစ်ခုရဖို့ မလွယ်ဘူး။ ဆယ်တန်းအောင်ပါရဲ့။ ဒါပေမယ့် ကွန်ပျူတာလေးလည်း တတ်ထားဦးမှ အလုပ်ခန့်ချင်တဲ့လူက ခန့်တာ မဟုတ်လား။ မိဘအိမ်က ထွက်လာတယ်ဆိုရင် အလုပ်ရတာ,မရတာ က ကိစ္စမရှိသေးဘူး။ လတ်တလောနေရေးက ခက်သေးတယ်။ ဘယ်အိမ်မှာတည်းမလဲ။ ဧည့်စာရင်းတိုင်ဖို့ အိမ်ကထွက်လာရင် မှတ်ပုံတင်ပါမှဖြစ်မယ်။ ဘယ်သူကရော မိဘလို အသက်ထက်ဆုံး အိပ်ခန်းပေးထားမလဲ။ တကယ်တော့ အမေ့အိမ်က ထွက်လာပြီဆိုရင် တစ်ညတာ ကျောတစ်ခင်းစာရဖို့တောင် အလွန်မှခဲယဉ်းတာ မောင်ဝင်းသူ ရေ...

ဥရောပနဲ့ အမေရိကန်မှာတော့ အသက် ၁၈ နှစ်လောက်ကနေ စပြီး ၂၄ နှစ်အကြားရှိ လူငယ်တွေဟာ မိဘများရဲ့ အရိပ်အာဝါသကို

စတင်စွန့်ခွာပြီး မိမိတို့ဘာသာ အိမ်ခွဲနေကြတယ်။ ဒါက သူတို့ရဲ့ ယဉ်ကျေးမှုဓလေ့စရိုက်လေ။ ဒါကို အတုခိုးလို့မရဘူး။ ဦး အင်္ဂလန်ကို သွားတော့ ဦးတည်းတဲ့အိမ်က စိတ်ရောဂါအထူးကု မြန်မာဆရာဝန်ကြီးတစ်ဦးရဲ့အိမ်ပါ။ သူက ဘာပြောလဲဆိုတော့ "ဒီက မိဘတွေဟာ အသက် ၂၀ ကျော်လို့မှ သားသမီးတွေဟာ အိမ်ခွဲမနေကြဘူး၊ မိဘအိမ်မှာပဲ ဆက်နေကြသေးတယ်ဆိုရင် ဒီလူငယ်တွေမှာ စိတ်ရောဂါများရှိသလားဆိုပြီး ဆရာဝန် လာပြကြတာရှိတယ်"လို့ ဆိုပါတယ်။

ဦးတို့အရှေ့တိုင်းက မိဘတွေက ဒီလိုမဟုတ်ဘူး ။ မိသားစုဆိုတာ တစ်သက်လုံး ဘယ်တော့မှခွဲတာမဟုတ်ဘူး။ စာရေးဆရာကြီး ဦးရန်အောင်ဟာ အသက် ၆၀ ရှိနေပြီ။ သူ့မိခင်ကြီးက အသက် ၈၀ ကျော်ပြီလေ။ ဒါတောင် မိခင်ကြီးက စာရေးဆရာအရင့်မကြီးဖြစ်နေတဲ့ သားကြီး ဦးရန်အောင်ကို "ဟဲ့... မောင်ရန်၊ ဘတ်စ်ကားမစီးနဲ့၊ အငှားကားစီး"လို့ သတိပေးသေးတယ်။ အရှေ့တိုင်းသားတွေဟာ အနောက်တိုင်းသားတွေနဲ့ မတူဘူး။ သူတို့သားသမီးတွေကို အသက်ထက်ဆုံး သူတို့ရင်ခွင်ထဲမှာသာ ထားတတ်ကြတာ။

ဒါနဲ့ ပြောရဦးမယ်။ မြန်မာစာရေးဆရာ ဆရာဝန် အမျိုးသမီးတစ်ဦးက အကြင်လင်မယားမဟုတ်ဘဲ အတူနေကြဖို့ ကျမ်းတစ်စောင် ပေတစ်ဖွဲ့ ဝတ္ထုတစ်အုပ် ဇာတ်လမ်းတစ်ပုဒ် ရေးဖူးတယ်လို့ ကြားဖူးတယ်။ အဲဒီစာပေ စာအုပ်ပေါ်ပြီးတဲ့နောက်ပိုင်းမှာ မောင်ဝင်းသူတို့လို အိမ်ကထွက်သွားလိုတဲ့ လူငယ်တွေသာမက လက်မထပ်ဘဲ

အတူနေတဲ့အလေ့အကျင့်ကို မြန်မာနိုင်ငံမှာ ကျင့်သုံးချင်လာတဲ့ ကျင့်သုံးလာတဲ့ လူငယ်တွေကို ရန်ကုန်လို၊ မန္တလေးလို မြို့ကြီးပြကြီးတွေမှာ ရှိလာခဲ့တယ်။ အဲဒီတော့ လူငယ်တွေဟာ မိဘအိမ်က ဆင်းသွားလိုတဲ့ စိတ်ကူးယဉ် စွန့်စားမှုမျိုး ဆန္ဒမျိုးတွေ ပေါ်လာတာလည်း မဆန်းလှပါဘူး။

ကဲ...မောင်ဝင်းသူကိစ္စကိုပဲ ပထမ ပြောပါရစေ။ အခု မောင်ဝင်းသူ အိမ်ပေါ်က ဆင်းပါပြီတဲ့။ ဘယ်ကိုဆင်းမလဲ။ ဘယ်သူ့အိမ်က လက်ခံမလဲ။ အမေ့ခြေရာဓာတ်ကားထဲမှာ ခွေးက သူ့အမေရင်ဘတ်ကို စုံကန်ပြီး အိမ်ကဆင်းပြီးလာခဲ့တာ သူငယ်ချင်းအိမ်မှာ တစ်ညအိပ်ဖို့တောင် အတော်ခက်ခဲတာပဲ။ အခု ရန်ကုန်မှာရော မန္တလေးမှာပါ အိမ်ခန်းတွေပေါ်တယ်ဆိုပေမယ့် အိမ်ခန်းငှားခက တစ်လတစ်သောင်းအထက်မှာ။ ဦးတို့ခေတ်မှာက ငွေတစ်သောင်းဆိုတာ အိမ်တစ်လုံးတောင် ဝယ်လို့ရတာ။

မိဘရဲ့ ဆုံးဖြတ်မှု၊ မိဘရဲ့စိတ်ဆန္ဒကို ဆန့်ကျင်ပြီး ကိုယ်ပိုင်ရယူကြိုးပမ်းတဲ့ ဘယ်လူငယ်မဆို အဲဒီလူငယ်ရဲ့လုပ်ရပ်ဟာ အန္တရာယ်ကို ကျကျနနကြီး ဖိတ်ခေါ်နေတာသာဖြစ်တယ်ဆိုတာ လူငယ်တိုင်း ကြပ်ကြပ်နားလည်ထားဖို့လိုပါတယ်။

မောင်ဝင်းသူရေ မိဘနဲ့နေရတာ အဆင်မပြေတာနဲ့ အိမ်ကို မစွန့်လိုက်ပါနဲ့။ မိဘနဲ့မှ အဆင်မပြေရင် လောကမှာ တခြားဘယ်သူနဲ့နေလို့ အဆင်ပြေနိုင်မှာလဲ။ ငါတူ သေသေချာချာ နဖူးပေါ်လက်တင်ပြီး စဉ်းစားကြည့်စမ်းပါ။ ငါ့တူဟာ အိမ်ကဆင်းပြီး မကြာ

ခင်မှာပဲ မိမိကိုယ်မိမိ မရင့်ကျက်သေးဘူးဆိုတာ သိလာပါလိမ့်မယ်။ ဒီလိုသိလာတဲ့အခါ အိမ်ပေါ်က ဆင်းသွားတဲ့ လူငယ်အများစုဟာ ကျွန်တော် မှားပါတယ်ဆိုပြီး အမေ့အိမ်၊ အဖေ့အိမ်ပေါ်ပဲ ပြန်တက်လာတတ်ကြတယ်။ ဒီတော့လည်း မိဘက မျက်ရည်စက်လက်နဲ့ လက်ခံရတာပါပဲ။ အဖြေကတော့ မိဘနှစ်ပါးနဲ့ ဆွေမျိုးသားချင်းတွေပါ စိတ်ပူပန်မှု ဝမ်းနည်းကြေကွဲမှု ဖြစ်ရတာကလွဲလို့ ဘာမှ အကျိုးရှိတဲ့ကိစ္စ မဟုတ်ပါဘူး။

အရွယ်မတိုင်မီ မိဘမသိဘဲ မိဘအိမ်ပေါ်က ဆင်းသွားတာဟာ အကျင့်သိက္ခာ ပျက်စီးစေနိုင်တဲ့ အန္တရာယ်မျိုးနဲ့လည်း ကျိန်းသေကြုံရတတ်ပါတယ်။ မိဘအုပ်ချုပ်မှုအောက်က ကင်းလွတ်ချိန်မှာ လူငယ်တွေဟာ ပေါက်လွတ်ပဲစားဘဝမျိုးအထိ ရောက်သွားနိုင်ပါတယ်။ ကာမဂုဏ်နဲ့ပတ်သက်ပြီးလည်း အကျင့်ပျက်ခြင်းအဖြစ်ကို ရောက်ပြီး ရောဂါလည်း ရနိုင်တယ်။ (AIDS) ရောဂါဟာ ကြောက်စရာကောင်းတဲ့ရောဂါပါ။ လိင်ဆက်ဆံရာကတစ်ဆင့် ရနိုင်တဲ့ ရောဂါတစ်ခုပါ။ မကြာခင် မိဘအိမ်ကပါလာတဲ့ငွေက ကုန်၊ ကျရာအလုပ်လုပ်၊ အိမ်မှာလည်း လက်ကြောတင်းအောင် မလုပ်ကိုင်ဖူးတဲ့ လူငယ်တွေဟာ နောက်ဆုံး အသိတရားရလာပြီး မိမိမာန်ကို မိမိချ၊ မိဘများကို ခွင့်လွှတ်ဖို့ တောင်းပန်ပြီး အိမ်ပေါ်ပြန်တက်ရမယ့်အတူတူ ဘာပြုလို့ ကိုယ့်ဒုက္ခကိုယ်ခံပြီး အိမ်ပေါ်က ဆင်းရမှာလဲလို့ ငါ့တူကို မေးပါရစေလားကွယ်။

တစ်ခါက ဂျာမန်လူမျိုးတစ်ယောက်ဟာ လက်မထပ်ရသေးတဲ့ သူ့ရည်းစား မိန်းကလေးနဲ့အတူ မိဘအိမ်ကဆင်းပြီး နေခဲ့တယ်။

နောက်ပြီး ပါတီပွဲတွေတက်၊ အရက်တွေအလွန်အကျွံသောက်ပြီး ဇာတ်သိမ်းခြင်းမကောင်းစွာနဲ့ ဇာတ်သိမ်းသွားခဲ့ရတယ်။ ဒီလူဟာ မိဘများနဲ့သာ အတူနေရင် ဒီလိုအဖြစ်မျိုး လုံးဝဖြစ်မှာမဟုတ်ဘူး။ မိဘအိမ်ကို စွန့်ခွာလိုက်တာနဲ့ လွယ်လပ်ခွင့်ဟာ ပိုရလာတာတော့ အမှန်ပဲ။ ဒါပေမယ့် အဲဒီလွတ်လပ်ခွင့်ဟာ မကောင်းတာတွေလုပ်ဖို့ လွတ်လပ်သွားတာဖြစ်တော့ ခက်တယ်။

မောင်ဝင်းသူကို မေးရမှာက ဘာပြုလို့ လွတ်လပ်ခွင့်ကို ပိုပြီး တိုးမြှင့်တောင်းချင်ရတာလဲ။ ကိုယ့်ဟာကိုယ်ပဲ မေးကြည့်ပါ။ လူငယ်တွေ လွတ်လပ်ခွင့် ပိုလိုချင်တာ မိဘတွေက ဆုံးမပြောဆိုတာကို ချုပ်ချယ်လွန်းတယ်လို့ ထင်လို့လား။ မိဘအိမ်က ဆင်းသွားရင် ငှက်တစ်ကောင်ပျံထွက်သွားသလို လွတ်လပ်သွားပြီလို့ ထင်လို့လား။

ဗုဒ္ဓမြတ်စွာဘုရားက စိတ်ဆိုသည်မှာ မကောင်းမှုမှာ ပျော်ပိုက်တတ်တယ်လို့ ဆုံးမသင်ကြားခဲ့ပါတယ်။ သမ္မာကျမ်းစာထဲမှာတော့ "နှလုံးသားဟူသည် အရာတိုင်းထက် ပို၍ သစ္စာမဲ့တတ်၏။ ဆင်ကန်း တောတိုးလည်းနိုင်၏"လို့ ဆိုပါတယ်။

ဒီလိုဆိုရင် မိဘအိမ်က ဆင်းသွားလို့ ပိုလွတ်လပ်သွားရင် အဲဒီ လွတ်လပ်မှုဟာ မကောင်းမှုမှာ ပျော်ပိုက်တဲ့စိတ်အတွက် ထင်ရာစိုင်း စရာပေပဲပေါ့။ သစ္စာမဲ့တတ်တဲ့စိတ်အတွက် မြင်မြင်ရာတွေဟာ အရိုင်း ဆေးနာတွေပဲ ပေါ့။

ဒီလိုဆိုရင် ဘာကြောင့် လွတ်လပ်မှုကမ္ဘာထဲကို စိတ်ကို အထိန်း အချုပ်မရှိ လွှတ်ပေးရမှာလဲ မောင်ဝင်းသူရေ-

**ပန်းမျိုးတစ်ရာစာပေ**

ဆက်ပြောဦးမယ်။ မိဘအိမ်ကို ခြေစုံကန်ရုံနဲ့ ရင့်ကျက်သူ လူကြီးဘဝကို အောင်မြင်စွာကူးပြောင်းသွားပြီလို့ မောင်ဝင်းသူ ယုံကြည်ပါသလားလို့ မေးပါရစေ။ မကူးပြောင်းသွားနိုင်ပါဘူး။

မိမိ မနှစ်သက်တဲ့ အခြေအနေများကို ရှောင်တိမ်းပြေးလွှားခြင်းဖြင့် ဘာရင့်ကျက်မှုကိုမှ မရနိုင်ပါ။ ဘဝဟူသည် ပြဿနာကို ရင်ဆိုင်ပြီးမှသာ ရင့်ကျက်ရခြင်းဖြစ်ပါတယ်။

တစ်ခါက လူငယ်တစ်ဦးက ကျောင်းပိတ်ရက်မှာ အခြားလူငယ်တွေနဲ့ လွတ်လပ်စွာ ကစားနေချိန်မှာ သူ့ကို သူ့အဖေက အလုပ်တွေခိုင်းထားလို့ အဖေဟာ ပျော်အောင်နေထိုင်ခွင့်မပေးတတ်တဲ့ အဖေမျိုးလို့ စွပ်စွဲပါတယ်။ နောက်တော့ ထိုလူငယ်က သဘောပေါက်လာပြီး "အဖေ ကျွန်တော့်ကို အလုပ်ခိုင်းခဲ့တာဟာ တန်ဖိုးမဖြတ်နိုင်ပါဘူး။ အဲဒီအချိန်ကစပြီး ကျွန်တော်ဟာ လေးနက်တဲ့ပြဿနာတွေနဲ့ ရင်ဆိုင်ရရင် ဘယ်လိုဖြေရှင်းရမယ်ဆိုတာ သိလာပြီ"လို့ ဆိုပါတယ်။

မိဘအိမ်မှာနေရင်းကလည်း အန္တရာယ်ကင်းရှင်းစွာနဲ့ ရင့်ကျက်မှုကို ရရှိနိုင်တယ်ဆိုတာ လူငယ်တွေ ရှင်းရှင်းလင်းလင်း သိထားရန်လိုအပ်ပါတယ်။ ရင့်ကျက်ခြင်းရဲ့ အစိတ်အပိုင်းတစ်ခုက မိမိလုပ်ဆောင်ရမယ့်အလုပ်တွေကို ကိုယ်တိုင် လုပ်တတ်အောင် လေ့လာတတ်မြောက်ခြင်းလည်း ပါဝင်ပါတယ်။ ယောကျ်ားလေးဖြစ်စေ မိန်းကလေးဖြစ်စေ၊ အချက်အပြုတ် သန့်ရှင်းအောင် ဆေးကြောတိုက်ချွတ်ခြင်း၊ မီးပူတိုက်ခြင်း၊ အိမ်သုံးပစ္စည်းများ၊ စက်ပစ္စည်းများ ထိန်းသိမ်းထားရှိခြင်းတို့ကို ကိုယ်တိုင်မတတ်ပါက အခြားသူများကို မှချမှီခိုရမည်ဖြစ်ပါတယ်။

အဲဒီလို မှီခိုမှုမျိုးမရှိအောင် မိဘက ထိုအလုပ်များကို အိမ်၌ လုပ်စေခြင်းကို လွတ်လပ်မှုဆိတ်သုဉ်းခြင်းဟု သင် ခေါ်ဆိုမည်လော...

နောက်ကိစ္စတစ်ခုက လူငယ်တွေဟာ ငွေရလွယ်တယ်လို့ ထင်ကြတယ်။ မိဘအိမ်မှာ လက်ဖြန့်ခံလိုက်ပါက ငွေများ လက်ဖဝါးပေါ်သို့ ကျသည်သာဖြစ်ရာ ငွေကို အလွယ်နှင့်ရသူတွေက ထိုငွေကို လွယ်လွယ်ကူကူပင် သုံးပစ်တတ်ကြပါတယ်။ တကယ်တော့ ငွေတွင်း မည်မျှနက်သည်ကို လူငယ်တိုင်း မသိကြပါ။ ငွေတွင်းနက်မှန်းမသိကြသော လူငယ်တွေဟာ မိဘထံက အလွယ်တကူ တောင်းခံရရှိတဲ့ငွေကို စတီရီယိုတေးအခွေတွေ၊ စိတ်ကြိုက် ဒီဇိုင်းနဲ့ အင်္ကျီ၊ ဖိနပ်တွေဝယ်ပြီး ဖြုန်းပစ်တတ်ကြတယ်။ မိဘများက ငွေရှာရခက်လို့ သားသမီးတွေကို ပေးနေကျအတိုင်း မပေးနိုင်လျှင် သားသမီးများက မိဘများဘက်မှ ကိုယ်ချင်းမစာဘဲ မိဘများ တာဝန်မကျေဟု ထင်တတ်ကြပြန်တယ်။ ငွေတောင်းတိုင်းမရရင် သားသမီးတို့က ကလန်ကဆန်လုပ်ကာ အိမ်ပေါ်မှ ဆင်းရန်ပြင်လေ့ရှိကြတယ်။

တကယ်တော့ မိဘများကလည်း သားသမီးများကို မိသားစု ဝင်ငွေနဲ့ ကုန်ကျစရိတ်များကို အသိပေးထားသင့်တယ်။ သားသမီးများကို ငွေမကိုင်ခိုင်းလျှင်နေပါ။ စာရင်းကိုင်ခိုင်းသင့်တယ်။ ဥပမာ– မိမိတို့အိမ်စရိတ်ဖြစ်တဲ့ လျှပ်စစ်ခ၊ တယ်လီဖုန်းခ၊ မီးဖိုစရိတ်၊ ရေမီတာခ၊ စည်ပင်ခွန် စသည်တို့ တစ်လတစ်လ ဘယ်လောက်ကုန်တယ်ဆိုတာ သားသမီးတွေ သိထားစေသင့်ပါတယ်။ ဒီလိုသိထားခြင်းဖြင့် သားသမီးများဟာ မိဘများရဲ့ လစဉ်ကုန်ကျစရိတ်များကို သိရှိလာမှာ ဖြစ်ပါတယ်။

**ပန်းမျိုးတစ်ရာစာပေ**

မည်သည့်လူငယ်မဆို လွတ်လပ်မှုအတွက်ရော ရင့်ကျက်မှုအတွက်ပါ အိမ်က ထွက်ခွာသွားစရာ မလိုပါ။ ဒီနှစ်ခုစလုံးသောအရာဟာ အိမ်မှာတင် ရနိုင်သောအရာများသာ ဖြစ်ပါတယ်။ လွတ်လပ်မှုနှင့် ရင့်ကျက်မှုကို မိမိအိမ်တွင် ပျိုးထောင်မှုဟာ အန္တရာယ်ကင်းပြီး မိဘများ စိတ်အေးရပါတယ်။ ထိုလုပ်ငန်းကို မိဘများကိုယ်တိုင်က လေ့ကျင့်ပေးရမည်ဖြစ်ပါတယ်။

ဝေဖန်ခံရမှု၊ ကျရှုံးမှု၊ စိတ်ဆင်းရဲမှုတို့ကို ခံယူနိုင်အောင် မိမိအိမ်မှာပဲ မိဘများနဲ့တွဲပြီး လေ့ကျင့်သင့်ပါတယ်။ စာမေးပွဲအမှတ်နည်းလျှင် မိဘများနှင့် တိုင်ပင်ပါ။ အမှတ်များစေမည့်နည်းလမ်းကို ရှာပါ။ မိသားစုထဲမှာပင် ကြင်နာသနားစိတ်၊ စိတ်ကောင်းထားရှိရေး၊ နူးညံ့သောစိတ်၊ မိမိကိုယ်မိမိ ပျိုးထောင်သောစိတ်များကို မိသားစုအတွင်းမှာပဲ မွေးမြူရမှာဖြစ်ပါတယ်။

လူငယ်တစ်ဦးဟာ အသက် ၂၀ ပတ်ဝန်းကျင်သို့ ရောက်နေပြီဆိုကြပါစို့။ ဒီလူငယ်ဟာ အနေးနှင့်အမြန် မိသားစုအသိုက်အမြုံမှ အပြင်သို့ တစ်နည်းနည်းဖြင့် ထွက်ခွာသွားဖို့ ကြုံရမည်မှာ သေချာလှပါတယ်။ တက္ကသိုလ်ကျောင်းသွားတက်ရင်၊ အိမ်ထောင်ရက်သားကျရင် မိဘအိမ်ကို မုချ စွန့်ခွာရမှာဖြစ်ပါတယ်။ အဲဒီအချိန်မှာ ရင့်ကျက်မှု ပြည့်စုံမှုအဝဝဖြင့် မိဘအိမ်မှ ခွဲဆင်းရန် ကြိုးစားထားပါ။ တစ်ချိန်ချိန်မှာ မိဘအိမ်ကဆင်းရမည်မှာ သေချာပါတယ်။ အဲဒီအချိန်အခါအတွက် အသင့်ဖြစ်ရန် ကြိုးစားအားထုတ်ထားပါ။

သို့သော် အကြောင်းမဲ့ မမှန်ကန်သော ဆင်ခြေများနှင့် မိဘအိမ်မှ မိဘမသိဘဲ ဆင်းရန် မကြံပါနှင့်။ သင်သာလျှင် ဒုက္ခရောက်၍

မိဘများ စိတ်ဆင်းရဲပါမည်။ သင့်မိဘ မျက်ရည်နှင့်မျက်ခွက် ဖြစ်ရပါမယ်။

အိမ်ပြေးဘဝရောက်ရသော ပြဿနာ ဒုက္ခအဝဝကို နားလည်နိုင်ပါစေ။

◆

## မိဘများအပေါ် အစွမ်းကုန်ရိုးသားပါ

ရည်းစားထားရင်တော့ အမေနဲ့အဖေကို အသိပေးပါ။ အချိန်ကြာမှ ဘေးကပြောမှ အမေနဲ့အဖေတို့ သိရတဲ့ဘ၀ မဖြစ်စေပါနဲ့။ သားသမီးများဟာ မိဘများအပေါ်မှာ အစွမ်းကုန်ရိုးသားပါ။ မိဘများက တားမြစ်ရင် ချက်ချင်းရပ်ပါ။

ပန်းမျိုးတစ်ရာစာပေ

## အခန်း (၁၇)

# အမေနဲ့အဖေဟာ ကျွန်တော့်ကို နားမလည်ဘူး။ အဖေက "မင်းသီချင်းကို ခုပိတ်လိုက်"တဲ့။ ကျွန်တော် ဘာလုပ်ရမလဲ

**မေး** ။ ။ ကျွန်တော့်ကို အမေနဲ့အဖေ နားလည်အောင် ကျွန်တော် ဘာလုပ်ရမလဲ။ အဖေကလည်း ကျွန်တော်နဲ့ပတ်သက်လာရင် သူ့ခေတ်ပြားဟောင်းကြီးနဲ့ ဝရဇိန်လက်နက်ကိုပဲ အမြဲသုံးတယ်။ သူ့ဆုံးမစာ ခေတ်ပြားဟောင်းကြီးကိုတော့ အမြဲဖွင့်တယ်။ ကျွန်တော်ဖွင့်တဲ့ သီချင်းကျတော့ "မင်းသီချင်းကို ခုပိတ်လိုက်တဲ့"။ အမေကလည်း ကျွန်တော့်ကို နားလည်အောင် မကြိုးစားဘူး။ အဖေလာရင် အဆင်းတွန်းဖို့လောက်ပဲ စောင့်နေတယ်။ အဖေနဲ့ ကျွန်တော်ဟာ အဖေ့ဆံပင်တွေ ဖြူနေတာနဲ့ ကျွန်တော့်ဆံပင်တွေ နက်နေသလိုပဲ ကွာခြားနေတယ်။

ကျွန်တော် ဘာလုပ်ရမလဲ...

သီဟ(လမ်းမတော်)

**ဖြေ** ။ ။ သားရဲ့အဖြစ်အပျက်က ဦးနဲ့ ဦးသားတွေရဲ့ အဖြစ်အပျက်တွေနဲ့ အတော်တူနေပါလား။ ဦးလည်း အနှစ်

၂၀ တိုင်တိုင် "မင်းတို့သီချင်းတွေကို ရပ်လိုက်"လို့ အမိန့်ပေးပြီး မကြာခဏ သူတို့ကို ဝရမ်းဖိနှိပ်လက်နက်နဲ့ ပစ်ခွင်းခဲ့တာပဲ။ ဦးလည်း အဲဒီလိုမလုပ်တော့တာ ဘာမှမကြာသေးဘူး။ ဒီစာကို စာမရေးခင် လေးအထိ လုပ်တုန်းပဲ ဆိုပါတော့။

ဒီကမ္ဘာကြီးမှာ အဖြစ်အပျက် အပြောင်းအလဲတွေ အကုန်ကို မြန်လာတယ်။ သားတို့လူငယ်တွေဟာ အဲဒီ လျင်မြန်တဲ့ ပြောင်းလဲမှုတွေကို စီးပြီး အနာဂတ်ကို သွားနေကြတဲ့အချိန်မှာ ဦးတို့ဟာ ပစ္စုပ္ပန်မှာ ရစ်ဗင်ဝင်ကယ်လို အနှစ် ၂၀ လောက် အိပ်နေချင်သေးတယ်။ ဒီတော့ ပျိုမျစ်နုနယ်မှုနဲ့ အိုမင်းရင့်ရော်မှုတို့အကြား ကွာဟမှုတွေဟာ ချောက်ကမ်းပါးကြီးတွေအလား ကွာဟကြတာပေါ့။ ဦးလည်း တလောက ကောင်းလှချည်ရဲ့ဆိုတဲ့ ကပ္ပလီတစ်ယောက်ဆိုတဲ့ သီချင်းကို သားတွေနဲ့အတူ ခေတ်မီအောင် သွားနားထောင်လိုက်တာ သွေးတွေတက်ပြီး နှစ်ရက်လောက် အိပ်ဆေးသောက်ပြီး အနားယူလိုက်ရတယ်။ ဒါနဲ့ ဦးလည်း သားတွေကို ဦးတို့ခေတ် တက္ကသိုလ်မှာ ခေတ်စားတဲ့ သီချင်းတစ်ပုဒ်ကို ဖွင့်ပြတာ သီချင်းမဆုံးခင် သားတွေ အိပ်ပျော်သွားကြတယ်။ တစ်ခုပဲခြားတယ်။ ဦးက အိပ်ဆေးသောက်ပြီး အိပ်လိုက်ရတယ်။ ဦးသားတွေက အိပ်ဆေးမလိုဘဲ "ဝါးခနဲသမ်းပြီး" အိပ်ပျော်သွားကြတယ်။

ဘာပဲဖြစ်ဖြစ်လေ ဘယ်လိုပဲ ချောက်ကမ်းပါးတွေခြားခြား၊ ဖြူတဲ့ ဆံပင်တွေနဲ့ နက်မှောင်နေတဲ့ ဆံပင်တွေအကြား တံတားတော့ ထိုးကြရမှာပဲလို့ ဦးထင်တယ်။

ဒီတော့ ဦးနဲ့ ဦးသားတွေအကြား တံတားကလေးထိုးကြရအောင်။ မိသားစုထဲမှာ သားသမီးနဲ့ မိဘများအကြား ဝတ်စား

ဆင်ယင်မှု၊ ပြင်ဆင်ထုံးဖွဲ့မှု၊ လမ်းသွားလမ်းလာပြုမှု၊ စီးတဲ့ဖိနပ်၊ ပတ်တဲ့ခါးပတ်ကအစ လူငယ်ချင်းဆက်သွယ်မှု၊ လိင်ခြားသူများ နဲ့ ဆက်သွယ်မှု၊ မူးယစ်ဆေးဝါးနဲ့ အရက်သုံးစွဲမှု၊ အိမ်ပြန်မအိပ်တဲ့ည တွေ၊ တိုက်ပုံအင်္ကျီဝတ်ဖို့ ဆန့်ကျင်တာကအစ ပြတ်ပြတ်သားသား စိတ်ဝမ်းကွဲနေတာ အများကြီးပဲ။ ဒါတွေကို လူကြီးတွေကလည်း လုပ်ချင်တာလုပ်ဆိုပြီး လိုက်ရောဖို့ အတော်ကြီးခက်နေတယ်။ ဒီကိစ္စ တွေအပေါ်မှာ လူငယ်တွေကလည်း ဆေးစွဲသလို စွဲနေပြီ။

ဒါပေမယ့် ဒီကိစ္စတွေဟာ တစ်နည်း သားသမီးနဲ့မိဘ ကွာဟမှု ဟာ ပေါင်းကူးတံတား ခင်းလို့မရတဲ့အခြေအနေ မဟုတ်ဘူးဆိုတာ ကိုတော့ သားတို့ သမီးတို့ နားလည်ထားစေလိုပါတယ်။

အမြင်ချင်းမတူကြတာကလည်း မိဘတွေဆိုတာက စီးပွားရှာကြ တဲ့သူတွေ။ ငွေတွင်း ဘယ်လောက်နက်တယ်ဆိုတာ သူတို့ အသိဆုံး ပေကိုး။ သားတို့ကတော့ လက်ဖြန့်ပြီး သုံးကြစွဲကြတဲ့လူတွေ။ ဒီတော့ ချွေတာရမယ်၊ စုဆောင်းရမယ်ဆိုတဲ့ကိစ္စတွေကို သားတို့ သိပ်စိတ် မဝင်စားကြဘူး။ အများစုက သုံးဖို့ပဲသိကြတယ်၊ အချို့သားသမီး တွေက မိဘတွေဘက်က မကြည့်ဘူး။ ဦးမိတ်ဆွေတစ်ယောက်ရဲ့ သားတစ်ဦးက သူ့ကို ယူဇနဂါဒင်းဟိုတယ်မှာ ၁၂ သိန်းဖိုး မင်္ဂလာ ဆောင်ပေးရမယ်လို့ ပြောတယ်။ မိဘတွေ ဘယ်လိုတတ်နိုင်ကြမှာလဲ ဂလေးတို့ရယ်။

ယူဇနဂါဒင်းမှာ ၁၂ သိန်းဖိုး မင်္ဂလာဆောင်ပေးနိုင်ပေမယ့် အမေနဲ့ အဖေဟာ သားတို့ကို လူလားမြောက်အောင် ကျွေးမွေးပြုစုခဲ့ တယ်။ ပညာသင်ပေးခဲ့တယ်။ စာရိတ္တဆိုင်ရာ ဆိုဆုံးမမှုတွေပြုခဲ့တယ်။

## ပန်းမျိုးတစ်ရာစာပေ

မိုးလုံလေလုံ အိမ်တစ်ဆောင် တိုက်ခန်းတစ်ခုမှာ ထားဖို့ ကြိုးစားခဲ့ကြတယ်။ သားတို့ငယ်ငယ်က သွေးလွန်တုပ်ကွေး၊ ဝမ်းပျက်ဝမ်းလျှော၊ ပိုလီယိုအကြောသေ၊ ရင်ကျပ်ချောင်းဆိုး၊ တီဘီနဲ့အဆုတ်နာ၊ ဝက်သက် အာဟာရချို့တဲ့ရောဂါတွေကနေ ကာကွယ်ပြီး ဖဝါးလက်နှစ်လုံး ပခုံးလက်နှစ်သစ်ကနေ လူလားမြောက်အောင် ဆောင်ရွက်ပေးခဲ့တာ မဟုတ်လား။

**မိဘတွေဟာ သားတို့ကို လူတစ်လုံးသူတစ်လုံးဖြစ်စေချင်တယ်။ ပညာတတ်စေချင်တယ်။ ကျောင်းက ဂုဏ်ပြုပွဲအခမ်းအနားတွေကို တက်ချင်တယ်။ ဂုဏ်ထဲမှာ သားတို့ကို ဘယ်မိဘကမှ လိုက် အာမ မခံချင်တာ မိဘတွေဘက်က အမှန်ပါ။ မိဘတွေက သူတို့ကို နားလည်အောင်ပြောပါ။ သူတို့ လိုက်လျောတတ်ပါတယ်။**

ဒါပေမယ့် မိဘတွေကို ပြောတဲ့အခါမှာတော့ မိဘတွေ နားလည်တဲ့စကားနဲ့ ပြောရပါမယ်။ "အဖေ…ရေခန်းနေလို့ ရေပေးပါ"ဆိုရင် အဖေတွေ အမေတွေဟာ တကယ်နားမလည်ရှာတာပါ။

တစ်ခါတလေ မိဘတွေဟာ ဆူပူကြိမ်းမောင်းကြတာ အမှန်ပဲ။ ဒီလိုအဖြစ်မျိုးကြုံရင်လည်း သားတို့က စိတ်မဆိုးပါနဲ့။ ဘာပြုလို့လဲ ဆိုတော့ အခုလို မိဘတွေက ဆူပူရတာကလည်း သားတို့က အရင်ထဲက မိဘစကားကို နားမထောင်လို့ ဖြစ်ခဲ့ရတာချည်းပဲမဟုတ်လား။

မိဘတွေဟာ သားတို့ကို သမီးတို့ကို ကူညီဖို့ အမြဲအဆင်သင့်ရှိနေတဲ့သူတွေပါ။ ဒါ့အပြင် မိဘများဟာ သားတို့အတွက် အယုံကြည်စိတ်အချရဆုံးပုဂ္ဂိုလ်ကြီးများပါ။ မိဘများထံမှာ ရင့်ကျက်တဲ့အတွေ့အကြုံ အများကြီးရှိကြတယ်။ အဲဒီအတွေ့အကြုံတွေ၊ အကြံဉာဏ်တွေကို သားတို့ဘဝအတွက် အသုံးချပါ။

တစ်ခါတလေ အမေရဲ့ ဆယ်ကျော်သက်ဘဝတုန်းက ဘယ်လိုလဲ။ အဖေရဲ့ ဆယ်ကျော်သက်ဘဝက ဘယ်လိုလဲ။ မေးကြည့်ပါ။ အဲဒီအခါမှ အမေနဲ့အဖေဟာ ပြုံးပြုံး ပြုံးပြုံးနဲ့ ရှက်စနိုးအမူအရာတွေနဲ့ သူတို့ ဆယ်ကျော်သက်ဘဝကို ပြန်ပြောကြပါလိမ့်မယ်။ အဲဒီအချိန်အခါဟာ ဘယ်လောက်ကြည်နူးစရာ နားလည်မှုရစရာတွေ အများကြီးလဲ။ အဲဒီလို တွေ့ဆုံတာဟာ မျိုးဆက်ကွာဟမှုအတွက် အင်မတန်နိုင်မာတဲ့ တံတားခင်းခြင်းပဲ။ ဒါဖြင့် တစ်နေ့က သားတို့ ဘာတွေလုပ်ခဲ့တယ်ဆိုတာကိုလည်း အမေ့ကိုကိုပြောပြပါ။ သူတို့ဟာ အကောင်းဆုံး တိဗ္ဗိအစီအစဉ်တွေကို ပိတ်ပြီး သားတို့ပြောစကားတွေကို နားထောင်ကြမှာပါ။ တရားပွဲမသွားဘဲ သားသမီးတွေပြောတဲ့ စကားနားထောင်ချင်တဲ့ မိဘတွေ အများကြီးပါ သားတို့ရယ်။

နောက်ဆုံး ရည်းစားထားတာတောင် အမေနဲ့အဖေတို့ကို အသိပေးပါ။ အချိန်ကြာမှ သေးကပြောမှ အမေနဲ့အဖေတို့သိရတဲ့ဘဝ မဖြစ်ပါစေနဲ့။ တစ်ဆက်တည်းပြောရရင် သားတို့သမီးတို့ဟာ မိဘများအပေါ်မှာ အစွမ်းကုန် ရိုးသားပါ။ မိဘများတားမြစ်ထားရင် ချက်ချင်းရပ်ပစ်ပါ။ နောက် မိဘများကို သဘောပေါက်အောင် ပြောပြီးမှ ဆက်လုပ်ပါ။ ဒါတွေဟာ မိဘနဲ့သားသမီးအကြား ကွာဟချက်တွေကို လျော့ချတာပဲ။ လျှော့ချတာတွေများရင် ရင်ကြားစေ့သွားရမှာပေါ့။ သူစိမ်းတွေမှမဟုတ်တာဘဲ။ သားသမီးနဲ့ မိဘတွေပဲလေ။

◆

## မှန်ကန်တဲ့သတင်းထုတ်လွှင့်ဖို့

အဝတ်အစားဟာ မိမိ ဘယ်လိုလူမျိုးဖြစ်တယ်ဆိုတာကို ထုတ်ဖော်ကြေညာချက်တစ်ရပ်ဖြစ်တယ်။ ဂရုပြုမှုမရှိတဲ့ အဝတ်အစားများဟာ အခြားသူများနဲ့ မိတ်ပျက်နိုင်တယ်။ လူငယ်တိုင်းဟာ မှန်ကန်တဲ့ သတင်းထုတ်လွှင့်နိုင်တဲ့ ဝတ်စားဆင်ယင်မှုမျိုး ဝတ်ဆင်ဖို့ လိုပါတယ်။

အခန်း (၁၈)

## ကျွန်မ ဝတ်ထားစားတာကို တိုတယ်ရှည်တယ်ဆိုပြီး ရှုတ်ချနေတယ်။ သမီးကတော့ သာမန်ပဲ။ အမေတို့ဘက်က ဖရိုဖရဲလို့ မြင်နေတယ်၊ ကျွန်မ ဘာလုပ်ရမလဲ။

**မေး** ။ ။ ဆရာရှင့် ကျွန်မဟာ ခေတ်နဲ့အညီ ဝတ်တာပဲ။ ဒါကို အမေကရော အဖေကပါ တိုတယ်ရှည်တယ်၊ ကျပ်တယ်၊ လယ်ဟိုက်တာများတယ်၊ ထဘီကွဲတာများတယ်လို့ ရှုတ်ချကြတယ်။ လုံချည်ရှည်ရှုပ်တော့လည်း ထဘီက ဒရွတ်တိုက်ဆွဲနေတာပဲတဲ့။ ဒါက အပြင်ထွက်တိုင်း၊ ပွဲလမ်းသဘင်သွားခါနီးတိုင်း တွေ့နေရတဲ့ပြဿနာပါ။ ကျွန်မအတွက်တော့ သာမန်ပဲ။ ဒါပေမယ့် သူတို့က ဖရိုဖရဲလို့ပြောတယ်။ ကျွန်မအတွက်တော့ အနေတော်ပဲ။ သူတို့က ဘောက်ပြောင်လွန်းတယ်လို့ ဆိုပါတယ်။ ကျွန်မ ဘာလုပ်ရမလဲ။ ဘီးစပတ်,ပတ်ပြီး ထိုင်မသိမ်းနဲ့ပဲ သွားရတော့မှာလား…ဖြေပါ။

အဖြေသိချင်သူ

**ဖြေ** ။ ။ ဖြေပါမယ်။ သိပ်လည်း လောမကြီးပါနဲ့။ မြန်မာစကားပုံအရတော့ တောင်းမှာအကွပ် လူမှာအဝတ်တဲ့။ လူမှာ့အဝတ်က အရာရာကို အတော်လေး အဆုံးအဖြတ်ပေးပါတယ်။ ဘာကြောင့်လဲဆိုတော့ အဝတ်အစားဟာ ချက်ချင်း ကြေညာလိုက်တဲ့ သတင်းတစ်ပုဒ် ဖြစ်လို့ပါပဲ။ နောက်မှ စိတ်ထားက ဘယ်လိုရှိတယ်၊ ဘယ်မျိုးရိုးက ဆင်းသက်တယ် ဆိုတာက နောက်မှ ပြောကြတာ။ လောလောဆယ်ကတော့ အဝတ်အစားကိုကြည့်ပြီး ဆုံးဖြတ်ကြတာ မဟုတ်လား။

အဝတ်အစားဝတ်စားပုံဟာ ဝတ်စားလာသူရဲ့ တာဝန်သိမှု၊ စိတ်တည်ငြိမ်မှုရှိ့မရှိ၊ စာရိတ္တအခြင်းအရာတွေကို အဝတ်အစားကြည့်ပြီး တီးတိုးဝါဒဖြန့် အသံလွှင့်ကြတာတော့ အမှန်ပဲ။ အဝတ်အစားဟာ မိမိ ဘယ်လိုလူမျိုး ဖြစ်တယ်ဆိုတာ ထုတ်ဖော်ကြေညာချက်တစ်ရပ် ဖြစ်ပါတယ်။ မိန်းကလေးတစ်ယောက်ရဲ့ ဝတ်စားပုံကို ကြည့်ပြီး ယောကျ်ားလေးများဟာ နောက်ပြောင်စော်ကားလိုကြတယ်။ တည်တည်တံ့တံ့ ဝတ်စားလာတဲ့ မိန်းကလေးတစ်ယောက်ကို ဘယ်သူမှ အလွယ်နဲ့ မစော်ကားဝံ့ကြဘူး။ ကပျက်ကချော် မပြောဝံ့ကြဘူး။ ယောကျ်ားလေးတွေလည်း အတူတူပဲ။ စုတ်ပြဲနေတဲ့အဝတ်၊ ပန့်စ်လို့ ခေါ်တဲ့ တေလေကြမ်းပိုးစတိုင်၊ နားကွင်းနဲ့ဝတ်စားလာကြရင် သူတော်ချင်းချင်း သတင်းလွှေ့လွှေ့ဖြစ်ပေမယ့် မြင်ရတဲ့လူတွေက အတော့်ကို အော်ဂလီဆန်တတ်ကြပါတယ်။

လူငယ်များအတွက် အဝတ်အစားဟာ အရေးကြီးပါတယ်။

အဝတ်အစားဟာ ဩဇာသက်ရောက်မှုလည်းရှိပါတယ်။ ဒါကြောင့် သင့်မိဘများက သင်ဝတ်စားပုံ အချိုးမကျတာ၊ အဆင်မပြေတာ၊

ဝတ်စားပုံ လော်လီတာတို့အတွက် ရတက်မအေး ဖြစ်ကြရတာဟာ ဘာမှမဆန်းပါဘူး။ ဒါဟာ ချစ်လို့၊ မေတ္တာရှိလို့ ကိုယ့်သားသမီးမို့ ဖြစ်ရတာပါ။ သူများတကာဆို အမုန်းခံပြီး ဘယ်သူက ပြောနေမှာတဲ့လဲ။

**လူငယ်များအတွက် အဝတ်အစားဟာ သူတို့အတွင်း စိတ်နဲ့ လွတ်လပ်မှုကို ဖော်ပြတဲ့ ရိုက်စစ်စရာမလိုတဲ့ သက်သေဆိုလည်း မမှားပါဘူး။ အချိုးမကျတဲ့ သားသမီးတွေရဲ့ ဝတ်စားဆင်ယင်မှုတွေဟာ မိဘမျိုးရိုးကို အရှက်ခွဲရုံသာမက မိမိတို့ရဲ့ ကလေးဘဝက မလွန်မြောက်သေးတဲ့အဖြစ်ကို ပြသရာကိစ္စလည်း ဖြစ်ပါတယ်။**

လူငယ်တွေဟာ ရှယ်တူအုပ်စုများ ဝတ်ဆင်သလို လိုက်ဝတ်ကြတာ ရှိပါတယ်။ အဲဒီလို လိုက်ဝတ်မှ စိတ်လုံခြုံမှုရှိသလို အဲဒီလို လိုက်ဝတ်မှ အုပ်စုဝင်တစ်ယောက် ဖြစ်ရတယ်လို့ ခံစားမှုလည်းရှိကြပါတယ်။ ဒါပေမယ့် သတိပြုရမှာက ရွယ်တူတွေ မှားသလို မိမိက လိုက်မှားစရာမလိုဘူး။ လိုက်မှားဖို့လည်း ဘာတာဝန်မှမရှိဘူး။ ရွယ်တူတွေလုပ်သလို အမှားလိုက်လုပ်မှ လူဝင်ဆံ့တာမဟုတ်ပါ။ အမျိုးသမီးတစ်ဦးက "ကျွန်မ သူတို့လုပ်သလို လိုက်လုပ်တယ်။ သူတို့အုပ်စုအတိုင်း လိုက်နေရာက သူတစ်ပါးထားရာနေ စေရာသွားဖြစ်ပြီး သူများပြုသမျှ နရတဲ့ဘဝရောက်လို့ မနည်းရုန်းထွက်ရတယ်"လို့ ဆိုဖူးပါတယ်။ အများလုပ်သလို လိုက်လုပ်ရန် အလေးအနက်ပြုလွန်းရာက ထိုအုပ်စု လက်ခုပ်ထဲမှ အကျဉ်းသားဘဝ ရောက်ရှိသွားတတ်ပါ၏။

တစ်ခါတလေတော့လည်း လူတွေဟာ ဖက်ရှင်လေအတိုက်ခံရ

တတ်တာလည်း ရှိပါတယ်။ ဖက်ရှင်အရောင်းသမား အမြတ်ရှာသူတွေက ရုပ်ရှင်မင်းသမီး မင်းသားများလို တိုလိုက် ရှည်လိုက် ကွဲလိုက် ကျပ်လိုက် ပါးလိုက် ထူလိုက် ရှုံ့ချည်နပ်ကျည်လုပ်ပေးရာမှ လူငယ်များကလည်း လိုက်၍ ပွကြ ကျပ်ကြ ထူကြ ပါးကြရင်း အဝတ်ဒီဇိုင်းဆွဲသူတွေဟာ လူထုပရိသတ်ဆီက ပိုက်ဆံကို အလွယ်နှင့် ယူငင်သွားကြပြီး လိုက်ဝတ်သူတွေသာ သားကောင်အဖြစ် ခံကြရတတ်တာပါ။ အလုပ်အင်တာဗျူးသွားသူတွေဟာ ဖြစ်သလို ဝတ်စားမသွားကြဘူး။ နစ်လိုဖွယ် ဣန္ဒြေရရ ဝတ်ဆင်သွားကြတတ်ပါတယ်။ တစ်ဖက်သားအထင်အမြင်ကောင်းအောင် ဝတ်ဆင်သွားကြစမြဲ ဖြစ်ပါတယ်။

တစ်ခါက အင်တာဗျူးသွားရာမှ ဝတ်စားသွားဖို့နှင့်ပတ်သက်ပြီး ပုဂ္ဂိုလ်တစ်ဦးက ပြောဆိုရာမှာ “အင်တာဗျူးဖြေတဲ့အခါမှာ အဝတ်အစားတွေဟာ အထင်အမြင်မမှားစေတဲ့ အဝတ်အစားတွေကို ဝတ်မသွားသင့်ဘူး။ ရည်းစားနဲ့ချိန်းတွေ့တဲ့ပုံစံမျိုး ညသလို မြူသလို ဝတ်စားတာမျိုး ရှောင်ဖို့လိုတယ်။ ဒါမှမဟုတ်ရင် အလုပ်ခန့်ထားဖို့ဆိုင်ရာ အရည်အသွေးတွေကို ထိခိုက်နိုင်တယ်”လို့ ဆိုပါတယ်။

ဣန္ဒြေမရသော အဝတ်အစားများသည် အခြားသူများနဲ့ မိတ်ပျက်နိုင်တယ်လို့ပြောရင် သားတို့ သမီးတို့ ယုံမလား။ လူပျိုတစ်စုရဲ့ သဘောထားကို မေးစမ်းကြည့်ရာမှာ သူတို့က “လည်ဟိုက်၊ စကပ်တိုတို၊ ဘောင်းဘီတို၊ ဂျင်းကျပ်ကျပ် ဘရာစီယာမပါဘဲ ဝတ်စားလာသူ အမျိုးသမီးများကို တွေ့ရပါက မိမိတို့သည် ရာခိုင်နှုန်း မျက်စိကစားတတ်ကြသော်လည်း ထိုအမျိုးသမီးများကိုမူ မြူဆွယ်သူများဟု အမိပ္ပာယ်ကောက်ကြကြောင်း” ပြောဆိုကြပါတယ်။ ဣန္ဒြေရသော

အဝတ်အစားများကြောင့် သင့်အား သူတစ်ပါးက ကိုယ်ရည်ကိုယ်သွေးရှိသူဟု ယူဆကာ ထိုယူဆချက်၏ ရောင်ပြန်ဟပ်မှုကိုလည်း သင် ခံစားရမယ်ဖြစ်ပါတယ်။

အဝတ်အစား ဝတ်ဆင်ခြင်းရဲ့ ရည်ရွယ်ချက်က အရှက်လုံဖို့၊ ရာသီဥတုကာကွယ်ဖို့နဲ့ လှပစေဖို့ ဖြစ်ပါတယ်။ အဝတ်အစား ကြောင့် အရှက်ရပြီး ရာသီဥတု၏ နှိပ်စက်မှုကိုခံရကာ အလှပျက်စေ ခြင်းများ မဖြစ်သင့်ပါ။

ထို့ကြောင့် မိဘလူကြီးများက အကျိုးတရားကို တွေးဆထောက်ရှုပြီး သားသမီးတို့၏ ဝတ်စားဆင်ယင်မှုကို ထိန်းသိမ်းညွှန်ပြ ဆုံးမ ပြောဆိုသည်ကို လူငယ်များက တလွဲချော်ပြီး မတွေးသင့်ပါ။ လူကြီးများက အသက်အရွယ်ကြီးရင့်သူများဖြစ်၍ သူတို့ ပြောဆိုဆုံးမမှုများသည် သားသမီးတို့၏ဆန္ဒနှင့် မကိုက်ညီသော်လည်း အကျိုးတရားကို ပိုမိုဖြစ်ထွန်းစေတတ်၍ လူကြီးများ၏ ဆုံးမမှုကို အလေးထားဖို့လည်း လိုအပ်ပါတယ်။ ဒါကြောင့် လူငယ်တွေရဲ့ အဝတ်အစားဟာ လူငယ်တွေနဲ့ ပတ်သက်ပြီး မှန်ကန်တဲ့သတင်း လွှင့်ထုတ်နိုင်ဖို့ ဝတ်စားဆင်ယင်ရန် အရေးကြီးကြောင်း အလေးထားပြီး ဖြေကြားရပါတယ်ခင်ဗျ ကွယ်။

◆

## နှလုံးသား

နှလုံးသားသည် အမှန်ကိုဆိုတတ်သည်။ ထို့ကြောင့် နှလုံးသား ပြောသောစကားကို နားထောင်ပါလို့ ဆိုတတ်ကြပါတယ်။ ဒါပေမယ့် နှလုံးသားဆိုသောအရာသည် အချစ်စိတ်မွှန်နေလျှင် အမှန်ကို မပြော ဖြစ်ကြဘဲရှိတတ်ပြန်သောကြောင့် မေတ္တာစစ်မေတ္တာမှန်ဖြစ်ဖို့ နှလုံးသား ကိုချည်း အားကိုး၍မဖြစ်သည်ကို သတိပြုရပါမည်။

## အခန်း (၁၉)

**မေတ္တာစစ်မေတ္တာမှန်နဲ့ ချစ်သူကို တစ်ခါတည်းရွေး တစ်ခါတည်းချစ်လိုက်ချင်တယ်။ ကျွန်ုပ်က ရုပ်မလာရင်လည်း သူ့ကို မချစ်ချင်ဘူး။ ဘယ်လိုရွေးရမလဲ။**

**မေး** ။ ။ ဆရာရှင့် ကျွန်မအသက် ၁၈ ပြည့်ပါပြီ။ ရည်းစားတော့ မရှိသေးပါဘူး။ ကျွန်မကို မျက်စိကျနေတဲ့သူတွေရော၊ ကျွန်မရဲ့ရင်ကို လှုပ်ခါစေတဲ့လူတွေရော ရှိနေပါတယ်။ ကျွန်မက ကျွန်မအပေါ် မေတ္တာစစ် မေတ္တာမှန်နဲ့ ချစ်မယ့်လူကို တစ်ခါတည်းရွေး၊ တစ်ခါတည်းချစ်လိုက်ချင်တယ်။ အဲဒါ ဘာကိုမှတည်ပြီး ရွေးရမလဲ။ အရည်အချင်း စွမ်းရည်စိတ်ထားကို မှတည်ပြီး ရွေးရမယ်ဆိုရင်လည်း ရုပ်က မလာရင် ကျွန်မသူ့ကို မချစ်ချင်ဘူး။ ကျွန်မ ဘာလုပ်ရမလဲ။

**ဖြေ** ။ ။ ချစ်ခြင်းမေတ္တာဆိုသောအရာကို လျှို့ဝှက်ဆန်းကြယ်သော ခံစားချက်၊

တစ်သက်မှာ တစ်ခါပဲကြုံရသည့်ပီတိ၊

နှလုံးသားရေးရာ နူးညံ့သိမ်မွေ့မှု

ပန်းမျိုးတစ်ရာစာပေ

နားလည်ရှင်းလင်းဖို့ ခက်ခဲပြီး ခံစားမှုသက်သက်အရာ စသည်ဖြင့် စိတ်ကူးယဉ်ဆရာတို့က မေတ္တာကို ကြိုးစား၍ အဓိပ္ပာယ်ဖွင့်ဆိုပါတယ်။ မှန်ပါတယ်။ မေတ္တာဟာ တစ်မူထူးခြား၍ ကြည်နူးမှုပီတိတို့ ဖြစ်ရကြုံရ ခံစားရသည်များနှင့်ပတ်သက်၍ ငြင်းချက်မရှိသော်လည်း သမီးသိရှိလိုသော မေတ္တာစစ် မေတ္တာမှန်နှင့် ပတ်သက်တာကိုတော့ အလေးအနက် စဉ်းစားရမည်ဖြစ်ပါ၏။ တစ်ခါတည်းရွေး တစ်ခါတည်းချစ်ပြီး တစ်ခါတည်းတွေ့ ပုံမပေးလိုက်ပါနဲ့။ ဒီစာအုပ်ရဲ့ အခြားအခန်း အခြားခေါင်းစဉ်တွေကိုလည်း သမီး ဖတ်ပါဦး။

မြင်မြင့်ချင်းချစ်တာ မေတ္တာစစ်လား။

တစ်နေရာမှာ သူ့ကို တွေ့လိုက်ရပါတယ်။ ခန္ဓာကိုယ် အချိုးအစားက ပြေပြီး သူ့အပြုံးလေးနဲ့ မျက်တောင်လေး တဆတ်ဆတ်ခတ်နေတာ၊ သမင်လည်ပြန်လှည့်ကြည့်တာလေးနဲ့ မခိုတရို သူ့အမူအရာဟာ မြင်မြင်ချင်း ကျွန်တော် သူ့ကို စွဲမက်မိတာပါပဲ။ သူမကလည်း အာဝဇ္ဇန်းရွှင်ရွှင်ပြောတတ်တဲ့ဟန်နဲ့ စကားပြောနေရင်း သူက စိုက်ကြည့်လိုက်တဲ့ ဆွဲငင်အားပါတဲ့ သူရဲ့အကြည့်တွေကြောင့် သူတို့နှစ်ဦးသား မြင်မြင်ချင်း ချစ်ခဲ့ကြတာ အမှန်ပဲ။ ရက်သတ္တပတ် သုံးပတ်အတွင်း မခွဲနိုင်မခွာရက် ဖြစ်ခဲ့ရပေမယ့် သူမမှာ ရည်းစားဟောင်းရှိတယ်ဆိုတာလည်းသိရော သူတို့နှစ်ဦးရဲ့ အချစ်ဇာတ်လမ်းဟာ အေးတိအေးစက်ဖြစ်ရာက ပြတ်စဲခြင်းဘဝကို မကြာမမြင့်မီဘဲ ရောက်ခဲ့တဲ့အတွက် မြင်မြင်ချင်း ချစ်ကြတာဟာ အချစ်စစ် အချစ်မှန်လို့ မပြောနိုင်ကြောင်း သူတို့အဖြစ်ဟာ သက်သေတစ်ခုပါပဲ။

**ကိုယ်ဟန်အသွင်အပြင် အလှတရားသက်သက်နဲ့ ချစ်မေတ္တာ မရှင်သန်နိုင်ပါဘူး။ တစ်ဦးနဲ့တစ်ဦး မေတ္တာစစ်ဖြစ်ဖို့ဆိုတဲ့ကိစ္စမှာ**

**အတွေးတူဖို့၊ မျှော်လင့်ချက်တွေတူဖို့၊ စိတ်ကူးတွေတူဖို့၊ ဘဝတူဖို့၊ မေ်ဒန်မဆန်လွန်းဖို့၊ တတ်နိုင်ရင် လူတန်းစားတူဖို့ပါ လိုအပ်တယ်လို့ ဆိုရမှာဖြစ်ပါတယ်။**

အပြင်ပန်းသဏ္ဌာန်ဟာ လှည့်စားတတ်ပါတယ်။ အပြင်ပန်း ယဉ်ကျေးသိမ်မွေ့မှုဟာလည်း အတွင်းစိတ်ကို သိဖို့ ခဲယဉ်းတယ်။ လှပသော်လည်း ဆင်ခြင်ဉာဏ်မဲ့လျှင် အချည်းနှီးဖြစ်သလို သန်မာထွားကျိုင်းသော်လည်း ပျင်းရိလျှင်လည်း အချည်းအနှီးဖြစ်ပါတယ်။

နှလုံးသားသည် အမှန်ကိုဆိုတတ်ပါတယ်။ ထို့ကြောင့် နှလုံးသားပြောသောစကားကို နားထောင်ပါလို့ ဆိုတတ်ကြပါတယ်။ ဒါပေမယ့် နှလုံးသားဆိုသောအရာသည် အချစ်စိတ်မွှန်နေလျှင် အမှန်ကို မပြောဖြစ်ဘဲ ရှိတတ်ကြပြန်သောကြောင့် မေတ္တာစစ် မေတ္တာမှန်ဖြစ်ဖို့ နှလုံးသားကိုချည်း အားကိုး၍မဖြစ်ပြန်သည်ကို သတိပြုရမည် ဖြစ်ပါ၏။

အချို့ကလည်း နှလုံးသားကို ကိုးစားသူအား လူမိုက်ဟုဆိုကြ၏။ နှလုံးသားသည် စဉ်းလဲတတ်သည်လို့လည်း ဆိုပြန်ပါတယ်။

အချစ်ဟာ အမူးအရူးမဖြစ်ရန်လို၏။ အရူးအမူးချစ်ပြီဟု ဆိုလျှင်တော့ တစ်နည်း ချစ်စိတ်မွှန်နေရင်တော့ သူလုပ်သမျှ အကောင်းချည်းမြင်ကာ သူ့ဘာလုပ်လုပ် ခြောက်ပြစ်ကင်း သဲလဲစင်ဖြစ်နေတတ်၏။

မေတ္တာစစ် မေတ္တာမှန်၏ သဘောတရားတွင် သည်းခံမှု၊ ကြင်နာသနားမှု၊ ယုယပိုက်ထွေးမှု၊ မနာလိုစိတ်ကင်းမှု၊ ကြွားဝါမှုမရှိခြင်း၊ မာန်မာနမထားခြင်း၊ မလျောက်ပတ်သည့်အမှုကို မပြုခြင်း၊ ကိုယ်ကျိုးမရှိခြင်း၊ ဒေါသမထွက်ခြင်း၊ အပြစ်ကို မှတ်တေးမထားခြင်း စသည့် အချင်းအရာများ ပါဝင်ရမည်ဖြစ်၏။

**ပန်းမျိုးတစ်ရာစာပေ**

ချစ်သူနှစ်ဦးအတွက် အချစ်စစ် အချစ်မှန်ဆိုသည်မှာ သူ့အကျိုးနှင့် မိမိအကျိုး အပြန်အလှန် ညီညီညွတ်ညွတ် ရှေးရှုကြရမည်ဖြစ်သည်။ အချစ်စစ်အချစ်မှန်တွင် မည်သည့်အကြောင်းနှင့်မျှ မလိမ်ဖို့လိုသည်။ လိမ်လည်မှုသည်အတ္တမကောင်းသောအလုပ်ဖြစ်၏။ အတ္တတွေ ရှေ့တန်းတင် စဉ်းစားသော မည်သည့်အရာမျှ မေတ္တာစစ်မေတ္တာမှန်နှင့် မနီးစပ်နိုင်ပါ။

အချစ်စစ်အချစ်မှန် ဟုတ်၊မဟုတ်၊ မေတ္တာစစ် မေတ္တာမှန်မည် မမည်ဆိုသော အချက်ကို အချိန်ဟူသော ပြဒါးတိုင်နှင့် တိုင်းတာနိုင်၏။ မေတ္တာစစ် မေတ္တာမှန်သည် အချိန်၏ တိုက်စားမှုကို မဖြုန်း။ တစ်ယောက်သောသူ၏ ခံစားချက်ကို စမ်းသပ်ရန် အကောင်းဆုံးနည်းလမ်းသည် အချိန်ပင်ဖြစ်ပါ၏။

အချိန်နှင့်မှတ်တမ်းတင်ရင်း–

၁။ တစ်ကိုယ်ကောင်းမဆန်ခြင်း၊ အများအကျိုးသယ်ပိုးခြင်း

၂။ အတွင်းစိတ်ကို ချစ်တတ်ခြင်း

၃။ တစ်ဖက်သား၏ ပင်ကိုစရိုက်ကို လက်ခံခြင်း

၄။ ချစ်သူအပေါ် သာ၍ကောင်းသော၊ ပိုမိုကြီးပွားစေလိုသော ဆန္ဒရှိခြင်း

၅။ မိမိချစ်သူ၏ အနာအဆာကို တွေ့သည့်တိုင် ချစ်မြဲချစ်နေခြင်း

၆။ သဘောထားကွဲသော်လည်း ထုတ်ဖော်ဆွေးနွေးညှိနှိုင်းခြင်း

၇။ တစ်ဖက်သားအား ပေးလို ကမ်းလို ဝေခွဲလိုသောဆန္ဒရှိခြင်း

စသည့်အချက်များနှင့် ပြည့်စုံသောသူများထံတွင် မေတ္တာစစ် မေတ္တာမှန် ကိန်းအောင်းနေတတ်သောကြောင့် တစ်နည်း

မိမိချစ်ရမည့်သူသည် စိတ်ကောင်း ရှိ,မရှိ ဆန်းစစ်ပါ။ မူလကပင် စိတ်ကောင်းမရှိသူသည် ချစ်သူအပေါ်တွင်လည်း စိတ်ကောင်းချွတ်ယွင်းတတ်သည်။ မေတ္တာခန်းခြောက်တတ်သည်။ သမီးအသက်က အခုမှ ၁၆ နှစ်ပဲရှိသေးတယ်ဆိုတော့ ဦးတင်ပြတဲ့အချက်တွေပေါ် အခြေခံပြီး မေတ္တာစစ် မေတ္တာမှန်ကိုရှာပါ။ သမီးအတွက် အချိန်များစွာရရှိနိုင်ပါသေးတယ်။ သမီး မေတ္တာစစ် မေတ္တာမှန်ကို အသက် ၂၆ နှစ်အထိ ရှာနိုင်ပါသေးတယ်။ အလောတကြီး ဆွဲမရှာလိုက်ပါနဲ့။

စိတ်ကောင်းရှိသူများဟာ ကိုယ်စိတ်နှလုံး သုံးပါးစလုံးကို စောင့်ထိန်းနိုင်ကြပါတယ်။ ကိုယ်စိတ်နှလုံးသုံးပါးဆိုတာကတော့ ကာယကံ၊ ဝစီကံ၊ မနောကံဆိုတဲ့ ကံသုံးပါးကို စောင့်ထိန်းတဲ့သူကို ခေါ်တာပါ။ စတွေ့ထဲက ကောင်းတာတွေး၊ ပြောတော့လည်း တွေးတဲ့အတိုင်းပြော၊ လုပ်တော့လည်း ပြောတဲ့အတိုင်းလုပ်သူတွေဟာ ကိုယ်စိတ်နှလုံးသုံးပါးစောင့်ထိန်းသူတွေ ညီညွတ်သူတွေဖြစ်လို့ သူတို့ဆီမှာ မေတ္တာစစ် မေတ္တာမှန်လည်း ရှိတတ်ပါတယ်။ သမီးလေး ရုပ်ချောသဘောကောင်းပြီး လင်ကောင်းသားကောင်းရပါစေလို့လည်း ဆုတောင်းပေးလိုက်ရပါတယ်။

**ချစ်စံဝင်း**

# ဆရာချစ်စံဝင်း

## ရေးသားပြုစုခဲ့သော စာအုပ်များ

၁။ ပါဏာဗေဒနိဒါန်း (၁၉၆၇)
၂။ အမေနှင့် အမေ့အကြောင်း (၁၉၇၇/၈၀/၈၁/၈၈/၉၀/၉၂/၉၅/၂၀၀၀)
၃။ ပြည်သူ့ရင်သွေး (၁၉၇၉)
၄။ အမေ့ရင်သွေး (၁၉၈၀)
၅။ နိုင်ငံသစ်နိဒါန်း (၁၉၉၀)
၆။ မိုးထက်မြင့်သည့် စိတ်ထားများ (၁၉၇၀၊ ၁၉၈၀)
၇။ မြတ်လယ်တီ (၁၉၈၆၊ ၁၉၉၃၊ ၁၉၉၄)
၈။ ဥာဏ်ရှိန် နီးသလား (၁၉၈၆/၈၇/၈၈/၈၉/၉၀/၉၁/၉၃/၉၄/၉၅/၉၆/၂၀၀၁)
၉။ မြတ်ပညာနှင့် သားထံပေးစာများ (၁၉၇၈၊ ၁၉၈၉)
၁၀။ ဂျပန်လူငယ်တစ်ယောက်အကြောင်း (၁၉၈၉/၉၀/၉၁/၉၃/၉၉)
၁၁။ မြန်မာ့ရှုပ်သေးသဘင် (၁၉၈၉)
၁၂။ မြန်မာလူငယ်တစ်ယောက်အကြောင်း (၁၉၉၀)
၁၃။ ယသော်ဓယာ့အလွမ်း (၁၉၉၀၊ ၁၉၉၁)
၁၄။ ဆန်ဖွပ်သည့် အဖိုးအို (၁၉၉၀၊ ၁၉၉၁၊ ၁၉၉၃)
၁၅။ မြန်မာသူကြွယ်တစ်ယောက်အကြောင်း (၁၉၉၁)
၁၆။ ဗန်ကောက်-၁ (၁၉၉၁)
၁၇။ အနုပညာမဲ့သောနေ့ (၁၉၉၁)
၁၈။ တူနှစ်ကိုယ်ချစ် (၁၉၉၁၊ ၁၉၉၃)
၁၉။ ဗန်ကောက်-၂ (၁၉၉၁၊ ၁၉၉၃)
၂၀။ သာသနာစက်ခြည်လင်းစေဖို့ (၁၉၉၁)
၂၁။ ဒေါင်းဖတ်စာပုံပြင်များ ပထမတွဲ (၁၉၉၂၊ ၂၀၀၀)
၂၂။ အံ့ဖွယ်လူသား ကိုးရီးယား (၁၉၉၂)
၂၃။ ဒေါင်းဖတ်စာပုံပြင်များ ဒုတိယတွဲ (၁၉၉၂၊ ၂၀၀၀)
၂၄။ စင်ကာပူ(သို့) အရှေ့ဖျားက ခြသေ့်မြို့(၁၉၉၂၊ ၁၉၉၂)
၂၅။ အမေ့ခြေရာ (၁၉၉၂၊ ၁၉၉၂၊ ၁၉၉၃၊ ၁၉၉၄၊ ၁၉၉၅)
၂၆။ စိတ်ကောင်းရှိဖို့သည် ပထမ(၁၉၉၂၊ ၁၉၉၃၊ ၁၉၉၅၊ ၁၉၉၉)

၂၇။ ဈေးကွက်စီးပွားရေးနှင့် မြန်မာလူငယ် (၁၉၉၃)
၂၈။ ခုတင်နံပါတ် ၅ (၁၉၉၃၊ ၁၉၉၅)
၂၉။ ထိုင်းသို့မဟုတ် အရှေ့ဖျားက ပဋ္ဌမကျား (၁၉၉၃)
၃၀။ ထိုင်းနိုင်ငံရှိ မြန်မာဘုန်းတော်ကြီးကျောင်းများ (၁၉၉၃)
၃၁။ ဗန်ကောက်မှ မလေးကိုဖြတ်၍ စင်ကာပူသို့ (၁၉၉၃)
၃၂။ ပီနန်ဆရာတော်နှင့် ပီနန်ကျောင်း (၁၉၉၃)
၃၃။ ဂါစီယာသို့ သဝဏ်လွှာ (၁၉၉၃)
၃၄။ ကမ္ဘာ့သာသနာပြု ဆရာတော်ဦးပညာဝံသ (၁၉၉၄)
၃၅။ ပူနွေးဆူဝေကမ္ဘာမြေ (၁၉၉၄)
၃၆။ ရှက်ပြုံး (၁၉၉၄၊ ၁၉၉၄၊ ၁၉၉၅၊ ၁၉၉၆၊ ၂၀၀၀)
၃၇။ ထားရှိရမည့် သဘောထား (၁၉၉၄၊ ၁၉၉၄၊ ၁၉၉၅၊ ၁၉၉၆)
၃၈။ ပွားများရမည့် မေတ္တာတရား (၁၉၉၄၊ ၁၉၉၄၊ ၁၉၉၅၊ ၁၉၉၅၊၁၉၉၆)
၃၉။ ကမ္ဘာ့သာသနာပြု ဆရာတော်ဦးပညာဝံသ ထေရုပ္ပတ္တိစာတမ်း (၁၉၉၄)
၄၀။ မြစိမ်းရောင် မိဖုရားကြီး (၁၉၉၄)
၄၁။ မွေးမြူရမည့်သတ္တိ (၁၉၉၅၊ ၁၉၉၅၊ ၁၉၉၅၊ ၁၉၉၆)
၄၂။ ကိုးရိုးယား (သို့) ဟန်မြစ်ပေါ်က ကိုးတောင်ကျား(၁၉၉၅)
၄၃။ ရည်မှန်းရမည့်ပန်းတိုင် (၁၉၉၅၊ ၁၉၉၅၊ ၁၉၉၆)
၄၄။ သွားရောက်ရမည့်နည်းလမ်း (၁၉၉၅၊ ၁၉၉၅၊ ၁၉၉၆)
၄၅။ စိစစ်ရမည့် ရွေးချယ်မှု (၁၉၉၅၊ ၁၉၉၆)
၄၆။ မလျှော့ရမည့်ဇွဲ (၁၉၉၅၊ ၁၉၉၆)
၄၇။ အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တသုမနာစာရထေရုပ္ပတ္တိစာတမ်း (၁၉၉၅)
၄၈။ ဘာမင်ဂမ်ဆရာတော်ကြီး ဒေါက်တာရေဝတဓမ္မနှင့်တွေ့ဆုံခြင်း (၁၉၉၆)
၄၉။ ဖွံ့ဖြိုးကြီးထွား မလေးရှား (၁၉၉၆)
၅၀။ ငွေကို မိတ်ဆွေလို ဆက်ဆံပါ (၁၉၉၆၊ ၁၉၉၆)
၅၁။ ငွေပုံကြီးပေါ် ခွထိုင်ပါ (၁၉၉၆၊ ၂၀၀၀)
၅၂။ အခွင့်အလမ်းကို တွေ့အောင်ရှာ မိအောင်ဖမ်း (၁၉၉၆)
၅၃။ ကြီးစားမှုများ၏ နောက်မှ စင်ကာပူမြန်မာဘုန်းကြီးကျောင်း(၁၉၉၆)
၅၄။ သင့်ဝင်ငွေမှ ၁၀-ရာခိုင်နှုန်းကိုစုပါ (၁၉၉၆)
၅၅။ အချိန်ကို မိတ်ဆွေဖွဲ့ပါ ရန်သူမလုပ်ပါနှင့် (၁၉၉၆)
၅၆။ ရွှေပင်ငွေပင်စိုက်ပျိုးပါ (၁၉၉၆)
၅၇။ ကြီးပွားချမ်းသာလိုစိတ်မွေးပါ (၁၉၉၆)

၅၈။ မိုးထိအောင် လေ့ကားထောင် (၁၉၉၆)
၅၉။ ဓမ္မစေတီမင်း ကုသိုလ်တော်ခေါင်းလောင်းကြီးကို ရှာဖွေခြင်း (၁၉၉၆)
၆၀။ ဘယ်တော့မှ ဘယ်တော့မှ ဘယ်တော့မှ ဖွဲ့မလျှော့ပါနဲ့ (၁၉၉၇)
၆၁။ မဆုတ်တမ်း မနစ်တမ်း မလျှော့တမ်း (၁၉၉၇)
၆၂။ အထွတ်အထိပ်မှာ ကိုနေမည် (၁၉၉၇)
၆၃။ ဧရာဝတီသစ္စာဖောက်သောနေ့နှင့် သူ့ကျွန်မခံလိုသူများ (၁၉၉၈)
၆၄။ နှလုံးသား မေတ္တာ (၁၉၉၈)
၆၅။ အတွေးနဲ့ အရေး-၁ (၁၉၉၈)
၆၆။ အတွေးနဲ့အရေး-၂ (၁၉၉၈)
၆၇။ ဘဝအလှတရားကို ရှာဖွေခြင်း (၁၉၉၈)
၆၈။ အတွေးနဲ့အရေး -၃ (၁၉၉၉)
၆၉။ အောင်နိုင်သူ (၁၉၉၉)
၇၀။ နှလုံးသားစေတနာ (၁၉၉၉)
၇၁။ ဆရာကြီးဦးမောင်မောင်တင် (မဟာဝိဇ္ဇာ)၏ အတ္ထုပ္ပတ္တိစာတမ်း (၁၉၉၈)
၇၂။ အနာကြီးရောဂါကင်းဝေးရေးဆိုင်ရာ သစ္စာရေစင်စာတမ်း (၁၉၉၉)
၇၃။ တော်ဝင်စံထားမိန်းမသား (၂၀၀၀)
၇၄။ STREAM OF LOVE AND TRUTH (1999)
၇၅။ သစ္စာရေစင် (၁၉၉၉)
၇၆။ လော့အိန်ဂျလိ(စ်) ဆရာတော်ကြီး အရှင်သုန္ဒရနှင့်ပြည်ပ
သာသနာပြုခေတ်သစ် (၁၉၉၉)
၇၇။ လူငယ်များကမေးကြသည် (၂၀၀၁)
၇၈။ ဖိစီးမှု (၂၀၀၀)
၇၉။ အမေ့နှလုံးသား (၂၀၀၀)
၈၀။ နှလုံးသား သတ္တိ (၂၀၀၀)
၈၁။ မြည္ဟန့်ဆွေ အလွမ်းစာတမ်း (၂၀၀၁)
၈၂။ စာထဲမှခရီး၊ ခရီးထဲမှစာ (၂၀၀၀)

* ဆက်လက်ထွက်ရှိလာမည့်စာအုပ်များ

၈၃။ လူငယ်များက မေးကြသည် (ဒုတိယတွဲ)
၈၄။ ဆရာဟူသည် ဉယျာဉ်မှူး
၈၅။ မမေ့မလျော့ မပေါ့မဆ
၈၆။ အဖေ့ခြေရာ

ချစ်စံဝင်း

# လူငယ်များက မေးကြသည်

